

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်




## ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ......၇၂၅........... / ၂၀၀၉ ။ ၂၀၀၉ ခုနှစ်၊ ဒီဇင်ဘာ လ ၂၉ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ......ဦးရွှင်ချောက်......

(ခ) အဘအမည် ......ဦးလောပေါင်း......

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ......၁၃/သပန(နိုင်) ၀၂၃၃၆၁......

(ဃ) နေရပ်လိပ်စာ ......အမှတ် (၃၅၈)၊၃၃-၃၄ လမ်းနှင့် ၈၅-၈၆ လမ်းကြား၊ မလွန်နီးပါးတန်း ရပ်ကွက်၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးမြို့။......

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ......ထရီပယ်လ်"အေ" စီးမန့်တ်အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက် (Triple "A" Cement International Co., Ltd.)......

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ......ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်း......

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ......သံရွာ၊တောင်တော်ကွင်း၊ကွင်းအမှတ်(၂၅၂-ခ)နှင့် (၂၅၂-ခ ကွင်းပြင်)၊ ကျောက်ဆည်မြို့နယ်၊ မန္တလေးတိုင်း။......

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ......၅၀၀.၀၀(သန်း) (အမေရိကန်ဒေါ်လာ (၁၄.၉၃)သန်းအပါအဝင် ကျပ်ငါးရာသန်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၃၄ /၂၀၀၉ (မနသ)
ရန်ကုန်မြို့ ၊ ၁၃၇၁ ခုနှစ်၊ ပြာသိုလဆန်း ၁၄ ရက်
(၂၀၀၉ ခုနှစ် ၊ ဒီဇင်ဘာ လ ၂၉ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော ထရီပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Triple "A" Cement International Co., Ltd.) သည် မန္တလေးတိုင်း၊ ကျောက်ဆည်မြို့နယ်၊ သံရွာ၊ တောင်တော်ကွင်း၊ ကွင်းအမှတ် (၂၅၂-ခ)နှင့် (၂၅၂-ခ ကွင်းပြင်)၊ ရှိ လန(၃၉)မြေ (၅၀.၀၀)ဧကတွင် ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အမှတ်(၁)စက်မှုဝန်ကြီးဌာန၏ထောက်ခံချက်ဖြင့် အဆိုပြု တင်ပြချက်အား(၁-၉-၂၀၀၉)နေ့တွင်ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ (၃၂/၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ စိစစ်ခဲ့ပြီး (၁၈-၁၁-၂၀၀၉) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၄၀/၂၀၀၉) အစည်းအဝေး သို့ ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေးမှသဘောတူညီချက်အရ(၁၇-၁၂-၂၀၀၉)နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏(၄၆/၂၀၀၉)အစည်းအဝေးသို့တင်ပြခဲ့ရာ သဘောတူခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်း ထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် ထရီပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Triple "A" Cement International Co., Ltd.) အား ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၇၂၅/၂၀၀၉ ကို ထုတ်ပေးလိုက်သည်။

၂။ ထရီပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Triple "A" Cement International Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပြုသည်။ ဥပဒေပုဒ်မ ၁၃ မှ လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ ခံစားလိုပါက ဤကော်မရှင်သို့ လျှောက်ထားနိုင် သည်။

၃။ ထရီပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Triple "A" Cement International Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ

တွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၄။ ထရီပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Triple "A" Cement International Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစု ထားရှိရမည်။

၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့်စည်းကမ်းချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၆။ ထရီပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Triple "A" Cement International Co., Ltd.) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၇။ ထရီပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Triple "A" Cement International Co., Ltd.) သည် ပုဂ္ဂလိကစက်မှု လုပ်ငန်း ဥပဒေ အရ ပြည်နယ်/ တိုင်း စက်မှုကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။

၈။ ထရီပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Triple "A" Cement International Co., Ltd.) သည် ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံ ဇယားများဖြင့် (၆)လ တစ်ကြိမ်(ဧပြီ/အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံ ရမည်။ အဆိုပြု လုပ်ငန်း ၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၉။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသလိပ်စာ နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ(ကုမ္ပဏီ ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၀။ ထရီပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Triple "A" Cement International Co., Ltd.)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များ ကို လိုက်နာမှု မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်း ခံရမည်။

၁၁။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင် ရေးအတွက်သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့် အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

၁၂။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း)
ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က) /မ- ၁၀၃၃/၂၀၀၉( ၂၂၂၁၇)
ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ ဒီဇင်ဘာလ ၂၉ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။

၃။ အစိုးရ အဖွဲ့ရုံး။

၄။ မန္တလေးတိုင်း၊ အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေး ကောင်စီရုံး၊ မန္တလေးမြို့။
၅။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အဖွဲ့ဝင်များ။
၆။ အမှတ်(၁) စက်မှု ဝန်ကြီးဌာန။
၇။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၈။ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ အလုပ်သမား ဝန်ကြီးဌာန။
၁၀။ ပြည်ထဲရေး ဝန်ကြီးဌာန။
၁၁။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၂။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန။
၁၃။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။
၁၄။ ဥက္ကဋ္ဌ၊နိုင်ငံခြားမတည် ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့။ (ပို့ဆောင်ရေး ဝန်ကြီးဌာန)
၁၅။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ကြွေထည်မြေထည်လုပ်ငန်း။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။
၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၅။ ဥက္ကဋ္ဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။
၂၆။ အုပ်ချုပ်မှု ဒါရိုက်တာ၊ ထရီပယ်လ် “အေ” စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက်
(Triple “A” Cement International Co., Ltd.)

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

M.2250
24/12

ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ ဒီဇင်ဘာ လ ၂၄ ရက်၊

အကြောင်းအရာ။ ။ ထရီပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် မှ ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ထရီပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Triple "A" Cement International Co., Ltd.) သည် မန္တလေးတိုင်း၊ ကျောက်ဆည် မြို့နယ်၊ သံရွာ၊ တောင်တော်ကွင်း၊ ကွင်းအမှတ် (၂၅၂-ခ)နှင့် (၂၅၂-ခ ကွင်းပြင်)၊ ရှိ လန(၃၉)မြေ (၅၀.၀၀)ဧကတွင် ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အမှတ်(၁)စက်မှု ဝန်ကြီးဌာန၏ ထောက်ခံချက်ဖြင့် အဆိုပြု တင်ပြချက်အား (၁-၉-၂၀၀၉)နေ့ တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ (၃၂/၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

၂။ ကော်မရှင်မှ စိစစ်ခဲ့ပြီး (၁၈-၁၁-၂၀၀၉) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၄၀/၂၀၀၉)အစည်းအဝေးသို့ ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး မှ သဘောတူညီချက်အရ (၁၇-၁၂-၂၀၀၉)နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စု မြန်မာ နိုင်ငံတော်အစိုးရအဖွဲ့၏ (၄၆/ ၂၀၀၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ သဘောတူ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ နှင့် ယင်းဥပဒေ ဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၄) ၊ အပိုဒ် ၁၂ တို့နှင့်အညီ ထရီပယ်လ် "အေ"စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Triple "A" Cement International Co., Ltd.) အား ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန် ထုတ်ပေးမည့် ခွင့်ပြုမိန့် နှင့် အမိန့်ကြော်ငြာစာ (စာချော)တွင် လက်မှတ် ရေးထိုးပေးနိုင်ပါရန် ပြုစု တင်ပြ အပ်ပါ သည်။

(ဗိုလ်မှူးကြီးသူရိန်ဇော်)
အတွင်းရေးမှူး

ဥက္ကဋ္ဌ

ထိပ်တန်းလျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
အစိုးရအဖွဲ့

စာအမှတ်၊ ၈၉ / ၁၄၈ /အဖရ ( ၄၆ / ၂၀၀၉ ) ။
ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ ဒီဇင်ဘာလ ၂၄ ရက်။

# အ မှာ စာ

အကြောင်းအရာ။ ထရီပယ်လ် "အေ" စီးမန့်တ် အင်တာ နေရှင်နယ် ကုမ္ပဏီ လီမိတက် (Triple "A" Cement International Co., Ltd. )မှ မန္တလေးတိုင်း ၊ ကျောက်ဆည်ခရိုင်၊ကျောက်ဆည်မြို့နယ်တွင် ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်းကိစ္စ။

၁။ ၂၀၀၉ ခုနှစ်၊ ဒီဇင်ဘာလ ၁၇ ရက် (ကြာသပတေး) နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၄၆/၂၀၀၉) မှတ်တမ်းကောက်နုတ်ချက်ကို ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်း ပြန်ကြားရန်နှင့် ဌာနဆိုင်ရာ အရေးယူဆောင်ရွက်ချက်ကိုလည်း ပြန်လည်အစီရင်ခံတင်ပြရန် ဖြစ်ပါသည်။

အတွင်းရေးမှူး( ကိုယ်စား )
(အောင်လွင်ဦး)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

၈၉။ ထရီပယ်လ် အေ စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Triple "A" Cement International Co., Ltd. )မှ မန္တလေးတိုင်း၊ ကျောက်ဆည် ခရိုင်၊ ကျောက်ဆည်မြို့နယ်တွင် ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်းကိစ္စ။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၉ ခုနှစ်၊ ဒီဇင်ဘာလ ၁၀ ရက်နေ့စွဲပါ အမှာစာအမှတ်၊ ရက-၆(ခ)/မ-၁၄၇၂/၂၀၀၉(၂၁၅၃၂)။ အမှာစာကို သဘောတူကြသည်။

ဆောင်ရွက်ရန်၊
ရင်းနှီးမြှုပ်နှံမှု။

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ ဒီဇင်ဘာလ ၉ ရက်။

M-2153
9/12

အကြောင်းအရာ။ ။ ထရီပယ်လ် "အေ" စီးမန့်တ် အင်တာ နေရှင်နယ် ကုမ္ပဏီ လီမိတက် (Triple "A" Cement International Co., Ltd. )မှ မန္တလေးတိုင်း၊ ကျောက်ဆည် ခရိုင်၊ ကျောက်ဆည်မြို့နယ် တွင် ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်းကိစ္စ။

၁။ အထက်အကြောင်းအရာပါ ကိစ္စ နှင့် စပ်လျဉ်း၍(၁၈-၁၁-၂၀၀၉) နေ့တွင် ကျင်းပပြုလုပ်သည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏(၄၀/ ၂၀၀၉) အစည်းအဝေး မှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည် ။

(က)ထရီပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက် မှ မန္တလေးတိုင်း၊ ပုသိမ်ကြီး မြို့နယ်၊ ကျွဲနဖားတောင်၊ ရွှေစာရံကျေးရွာအုပ်စု၊ ကွင်းအမှတ် (၅၆၂/ ခ)၊ ဦးပိုင်အမှတ် (N ၃/၂၊ N ၅၂၊ OA) တွင် ဘိလပ်မြေထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် ရယူထားသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့် (၂)ခု [မနသ-၀၂၇/၉၆ (၂၈-၆-၁၉၉၆) နှင့် မနသ-၃၈၇/ ၂၀၀၀ (၁၆-၅-၂၀၀၀)] အား ကုမ္ပဏီမှ ပြန်လည်အပ်နှံရန်။

(ခ) ထရီပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက် မှ မန္တလေးတိုင်း၊ ကျောက်ဆည်မြို့နယ်၊ သံရွာ၊ တောင်တော်ကွင်း၊ ကွင်းအမှတ် (၂၅၂ - ခ) နှင့် (၂၅၂ - ခ ကွင်းပြင်) တွင် ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန်။

၂။ အထက်ပါ ဆုံးဖြတ်ချက်အရ ပုသိမ်ကြီးမြို့နယ်တွင် လုပ်ငန်း ဆောင်ရွက်ရန် ရယူထားသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ခွင့်ပြုမိန့် (၂)ခုအား ကုမ္ပဏီမှ ပြန်လည်အပ်နှံပြီးဖြစ်ပါသည်။ ယခု ကျောက်ဆည်မြို့နယ်တွင် ပြောင်းရွှေ့ဆောင်ရွက်ခြင်းကို သဘောတူသဖြင့် အစိုးရအဖွဲ့သို့ တင်ပြရန် အမှတ်(၁)စက်မှုဝန်ကြီး ဌာနမှ တင်ပြလာသည့် အတွက် ဆက်လက် တင်ပြခြင်း ဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ အစိုးရအဖွဲ့သို့ တင်ပြမည့် အမှာစာ(စာချော)တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

(ဗိုလ်မှူးကြီးသူရိန်ဇော်)
အတွင်းရေးမှူး

ဥက္ကဋ္ဌ

Triple A Cement

App

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ရက-၆(ခ)/မ-၁၄၇၂ / ၂၀၀၉( ၂၁၅၃ )၊

**ထရီပယ်လ် "အေ" စီးမန့်တ် အင်တာ နေရှင်နယ် ကုမ္ပဏီ လီမိတက် (Triple "A" Cement International Co., Ltd. )မှ မန္တလေးတိုင်း ၊ ကျောက်ဆည် ခရိုင်၊ ကျောက်ဆည်မြို့နယ် တွင် ဘိလပ်မြေ ထုတ်လုပ် ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်းကိစ္စ။**

**အကျဉ်းချုပ်။** ။ မြန်မာကုမ္ပဏီဖြစ်သော ထရီပယ်လ်"အေ"စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Triple"A" Cement International Co., Ltd.) သည် မန္တလေးတိုင်း၊ ပုသိမ်ကြီး မြို့နယ်၊ ကျွဲနဖားတောင်၊ ရွှေစာရံ ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၅၆၂/ ခ)၊ ဦးပိုင်အမှတ် (N ၃/ ၂၊ N ၅၂၊ OA) ရှိမြေ (၁၄.၅၂) ဧကတွင် မူလ စက်ရုံ နှင့် တိုးချဲ့စက်ရုံ အတွက် ကော်မရှင် ခွင့်ပြုမိန့် (၂)ခု [မနသ- ၀၂၇/၉၆ (၂၈-၆-၁၉၉၆)နှင့် မနသ-၃၈၇/၂၀၀၀ (၁၆-၅-၂၀၀၀)]ဖြင့် ဘိလပ်မြေ ထုတ်လုပ် ခြင်း လုပ်ငန်းဆောင်ရွက်ခွင့် ရရှိခဲ့ပါသည်။ ယခုအခါ နိုင်ငံတော်၏ လမ်းညွှန်ချက်အရ မန္တလေး တိုင်း၊ ကျောက်ဆည်မြို့နယ် သို့ ပြောင်းရွှေ့ တည်ဆောက်ရန် အတွက် အမှတ်(၁)စက်မှု ဝန်ကြီးဌာန ၏ ထောက်ခံချက်ဖြင့် အဆိုပြုချက် တင်ပြလာခြင်း ဖြစ်ပါသည်။

ယခု အဆိုပြုလုပ်ငန်းကို ကုမ္ပဏီ၏ အုပ်ချုပ်မှုဒါရိုက်တာ ဖြစ်သူ ဦးရွှင်ချောက် အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော ကွင်းအမှတ် (၂၅၂ - ခ) နှင့် (၂၅၂ - ခ ကွင်းပြင်)၊ ကျောက်ဆည် မြို့နယ်၊ မန္တလေးတိုင်းရှိ လန (၃၉) မြေ (၅၀.၀၀) ဧက (၂၀၂၃၄၃ စတုရန်းမီတာ) တွင် ဆောင်ရွက်မည် ဖြစ်ပါ သည်။

ယင်းလုပ်ငန်း ဆောင်ရွက်ခွင့် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏(၃၂/၂၀၀၉) (၁-၉-၂၀၀၉) အစည်းအဝေးမှ ပုသိမ်ကြီးမြို့နယ်တွင် ဘိလပ်မြေ ထုတ်လုပ် ရန် မူလခွင့်ပြုခဲ့သည့် ကော်မရှင်ခွင့်ပြု မိန့် (၂)ခု အား ကုမ္ပဏီမှ ပြန်လည်အပ်နှံရန်၊ ကျောက်ဆည် ဘိလပ်မြေစက်ရုံများတွင် လျှပ်စစ်ရရှိရေးအတွက် ညှိနှိုင်းဆောင်ရွက်ရန်နှင့် ကုန်သွယ်မှုမူဝါဒကောင်စီ သို့ တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။

အထက်ပါကော်မရှင်၏ (၃၂/၂၀၀၉)အစည်းအဝေးလမ်းညွှန်ချက်အရ ဆောင်ရွက်ထားရှိ မှုကို ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၄၀/၂၀၀၉) (၁၈-၁၁-၂၀၀၉) အစည်းအဝေးသို့ တင်ပြခဲ့ရာ ပုသိမ်ကြီး မြို့နယ်တွင် ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် ရယူထားသော ခွင့်ပြုမိန့် (၂)ခု အား ကုမ္ပဏီမှ ပြန်လည်အပ်နှံရန်၊ ကျောက်ဆည်မြို့နယ်တွင် ဘိလပ်မြေထုတ်လုပ်ခြင်း လုပ်ငန်း ကို ဆောင်ရွက်ခွင့်ပြုရန် ဆုံးဖြတ်ခဲ့ပါသည် ။

ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၄၀/ ၂၀၀၉) အစည်းအဝေးမှ သဘောတူခွင့်ပြုချက်အရ ပုသိမ်ကြီးမြို့နယ်တွင် လုပ်ငန်းဆောင်ရွက်ရန် ရယူထားသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ခွင့်ပြုမိန့်(၂)ခုအား ကုမ္ပဏီမှ ပြန်လည်အပ်နှံပြီးဖြစ်ပါသည်။ ယခုကျောက်ဆည်မြို့နယ်တွင် ပြောင်းရွှေ့ ဆောင်ရွက်ခြင်းကို သဘောတူသဖြင့် အစိုးရအဖွဲ့သို့တင်ပြရန် အမှတ်(၁)စက်မှု ဝန်ကြီးဌာန မှ တင်ပြ လာသည့်အတွက် ဆက်လက်တင်ပြခြင်း ဖြစ်ပါသည်။

အဆိုပြုလုပ်ငန်းအတွက် လျှပ်စစ်ဓါတ်အား တစ်နှစ်လျှင်(၁၂၀၀၀)ကီလိုဝပ် လိုအပ်ချက်နှင့် စပ်လျဉ်း၍ ဓါတ်အားဖြန့်ဖြူးပေးရမည့် ကျောက်ဆည်မြို့နယ်မှာ ဘဲလင်းပင်မဓါတ်အားခွဲရုံတွင် တပ်ဆင်ထားသည့် ၂၃၀/ ၃၃/ ၁၁ ကေဗွီ (၄၅) အမ်ဗွီအေထရန်စဖော်မာမှာ ဝန်အား ပြည့်နေပြီ ဖြစ် ၍ (၂၄)နာရီ အပြည့်အဝ ဓါတ်အားပေးနိုင်မှုအခြေအနေ မရှိခြင်းတို့ကြောင့် ခွင့်ပြုပေးနိုင်ခြင်း မရှိသေးပါကြောင်း အမှတ်(၂) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ ပြန်ကြားထားပါ၍ ကုမ္ပဏီပိုင် မီးစက် (၁၄)လုံးဖြင့် ဆောင်ရွက်မည် ဖြစ်ပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ (၁၄.၉၃)သန်း အပါအဝင်စုစုပေါင်း ကျပ် (၅၀၀.၀၀) သန်း ဖြစ်ပါသည်။ အမေရိကန် ဒေါ်လာ (၆.၅၅) သန်း တန်ဖိုးရှိ စက်ကိရိယာများကို ညီနောင်ကုမ္ပဏီများ၏ တရားဝင်ရရှိထားသော Export Earning များဖြင့် ပြည်ပမှ ဝယ်ယူမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

အဆိုပြုလုပ်ငန်းအတွက် ထုံးကျောက်ကုန်ကြမ်း ရယူသုံးစွဲမှုနှင့် စပ်လျဉ်း၍ ကျောက်ဆည်မြို့နယ်၊ တောင်နီမတောင်မှ ထုံးကျောက်ကုန်ကြမ်း ထုတ်လုပ်ခွင့်ကို ကုမ္ပဏီအမည်ဖြင့် (၁၀-၁၁-၂၀၀၈) မှ (၉-၁၁-၂၀၁၈)နေ့အထိ (၁၀)နှစ် ထုတ်လုပ်ခွင့်ပြုသည့် သတ္တုတွင်း ဝန်ကြီး ဌာန၏ ခွင့်ပြုမိန့် တင်ပြထားပါသည်။

လုပ်ငန်းမှ ပုံမှန်နှစ်တွင် ဘိလပ်မြေ (၁၄၀,၀၀၀) တန် ထုတ်လုပ်၍ တစ်တန်လျှင် (၆၆၀၀၀) ကျပ်နှုန်းဖြင့် ပြည်တွင်း၌ ရာနှုန်းပြည့် ရောင်းချမည် ဖြစ်ပါသည်။ ဘိလပ်မြေ ထုတ်လုပ် မည့် နည်းစနစ်မှာ အစို ထုတ်လုပ်မှုနည်းစနစ် (Wet Process) ဖြင့် အသုံးပြုမည် ဖြစ်ကြောင်း တင်ပြ ထားပါသည်။

လုပ်ငန်း၏ အရင်းကြေကာလမှာ (၈)နှစ်နှင့် (၈)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၁၁.၁၈) ရာခိုင်နှုန်း ဖြစ်ပါသည်။

လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ဝင်ငွေခွန် ကျပ်(၁၂.၂၁)သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် (၁၈၄၈.၀၀) သန်း ရရှိမည် ဖြစ်ပါသည်။

လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ လုပ်သား(၇၂၃)ဦး ခန့်ထားမည် ဖြစ်ပါသည်။

ငွေကြေးဆိုင်ရာ အထောက်အထားအဖြစ် ကုမ္ပဏီအမည်ဖြင့် ကမ္ဘောဇဘဏ်လီမိတက်ရှိ (၃၁-၇-၂၀၀၉) နေ့ ငွေလက်ကျန် ကျပ် (၇၀.၀၃) သန်းနှင့် Triple “A” International Co., Ltd. ၏ မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်နှင့် မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်တို့ ရှိ အမေရိကန်ဒေါ်လာ (၁.၂၇) သန်းကို တင်ပြထားပါသည်။

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့နှင့်အညီ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရပါမည်။

**ဆုံးဖြတ်ရန်အချက်**။ ။ ထရီပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက် မှ မန္တလေးတိုင်း၊ ကျောက်ဆည် မြို့နယ် ၊ သံရွာ ၊ တောင်တော်ကွင်း ၊ ကွင်းအမှတ် (၂၅၂ - ခ)နှင့် (၂၅၂ - ခ ကွင်းပြင်) တွင် ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

(ကျော်ဌွန်း)
ညွှန်ကြားရေးမှူး

ဥက္ကဋ္ဌသိသာပါရန်တင်ပြချက်

၁။ အဆိုပြုစက်ရုံအတွက် စက်ရုံဟောင်းမှ ပြောင်းရွှေ့သည့် စက်ကိရိယာတန်ဖိုး ကျပ်(၅၀.၂၇)သန်း (အမေရိကန်ဒေါ်လာ ၈.၃၈ သန်း)နှင့် ထပ်မံတင်သွင်းလိုသည့် စက်ကိရိယာတန်ဖိုး ကျပ်(၃၉.၃၁) သန်း (အမေရိကန် ဒေါ်လာ ၆.၅၅ သန်း) ဖြစ်ပါသည်။

၂။ စက်ကိရိယာများကို ကြိုတင် တင်သွင်းခွင့်ပြုပါရန် စက်မှု(၁)၏ ထောက်ခံချက်ဖြင့် တင်ပြခဲ့ရာ ကော်မရှင်အစည်းအဝေးများမှ တင်သွင်းခွင့်ပြုခဲ့သည့် အရေအတွက်နှင့် တန်ဖိုးတို့ကို အောက်ပါ အတိုင်း စိစစ်တင်ပြအပ်ပါသည်။

| စဉ် | အမျိုးအမည် | အရေအတွက် | တန်ဘိုး US$ (သန်း) | ခွင့်ပြုခဲ့သည့် MIC အစည်းအဝေး |
|---|---|---|---|---|
| ၁။ | ဆောက်လုပ်ရေးနှင့် လုပ်ငန်းသုံးပစ္စည်းများ | ၅၇ မျိုး | ၄.၇၅ | ၁၄/ ၂၀၀၉ (၂၉-၄-၂၀၀၉) (ပ - ကြိမ်) |
| ၂။ | စက်၊ ယာဉ်၊ ယန္တရား နှင့်စက်အပိုပစ္စည်းများ | ၁၁ မျိုး | ၀.၇၆ | ၂၄/ ၂၀၀၉ (၈-၇-၂၀၀၉) (ဒု - ကြိမ်) |
| ၃။ | စက်၊ စက်အပိုပစ္စည်း၊ ယာဉ်၊ ယန္တရားနှင့် လျှပ်စစ်ပစ္စည်းများ | ၄၁ မျိုး | ၁.၅၃ | (၄၀/၂၀၀၉) (၁၈-၁၁-၂၀၀၉) (တ - ကြိမ်) |
| | စုစုပေါင်း (ပ + ဒု+တ) | ၁၀၉ မျိုး | ၇.၀၄ | |
| ၄။ | ဝန်ထမ်းများ ကြိုပို့ရန် မော်တော်ယာဉ် (Bus) | ၅ စီး | ၀.၁၆ | (၄၂/၂၀၀၉) (၁-၁၂-၂၀၀၉ |

၃။ အထက်ပါ ကြိုတင် တင်သွင်းခွင့် ရရှိထားသည့် ပစ္စည်းများအားလုံး တင်သွင်းပြီးမှသာ ရင်းနှီး မြှုပ်နှံမှု အဆိုပြုလွှာတွင် ပြင်ဆင်ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း ကုမ္ပဏီမှ ရှင်းလင်း တင်ပြ ထားပါသည်။

လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/မ-၁၄၇၂ / ၂၀၀၉(၂၁၅၃၂)၊
ရက်စွဲ ၊ ၂၀၀၉ ခုနှစ် ၊ ဒီဇင်ဘာ လ ၁၀ ရက်။

**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ ။ ။ ထရီပယ်လ် "အေ" စီးမန့်တ် အင်တာ နေရှင်နယ် ကုမ္ပဏီ လီမိတက် (Triple "A" Cement International Co., Ltd. )မှ မန္တလေးတိုင်း ၊ ကျောက်ဆည် ခရိုင်၊ ကျောက်ဆည်မြို့နယ် တွင် ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ထရီပယ်လ်"အေ"စီးမန့်တ်အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက် (Triple"A" Cement International Co., Ltd.) သည် မန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ်၊ ကျွဲနဖားတောင်၊ ရွှေစာရံ ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၅၆၂/ ခ)၊ ဦးပိုင်အမှတ် (N ၃/ ၂ ၊ N ၅၂ ၊ OA) ရှိ မြေ (၁၄.၅၂) ဧကတွင် မူလစက်ရုံနှင့် တိုးချဲ့စက်ရုံ အတွက် ကော်မရှင် ခွင့်ပြုမိန့် (၂)ခု [မနသ-၀၂၇/၉၆ (၂၈-၆-၁၉၉၆)နှင့် မနသ-၃၈၇/၂၀၀၀ (၁၆-၅-၂၀၀၀)]ဖြင့် ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့် ရရှိခဲ့ပါသည်။ ယခုအခါ နိုင်ငံတော်၏ လမ်းညွှန်ချက်အရ မန္တလေးတိုင်း၊ ကျောက်ဆည်မြို့နယ်သို့ ပြောင်းရွှေ့တည်ဆောက်ရန်အတွက် အမှတ်(၁)စက်မှုဝန်ကြီးဌာန၏ ထောက်ခံချက်ဖြင့် အဆိုပြုချက် တင်ပြလာခြင်း ဖြစ်ပါသည်။

၂။ ယခု အဆိုပြုလုပ်ငန်းကို ကုမ္ပဏီ၏ အုပ်ချုပ်မှုဒါရိုက်တာ ဖြစ်သူ ဦးရှင်ချောက် အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော ကွင်းအမှတ် (၂၅၂ - ခ) နှင့် (၂၅၂ - ခ ကွင်းပြင်)၊ ကျောက်ဆည်မြို့နယ်၊ မန္တလေးတိုင်းရှိ လန (၃၉) မြေ (၅၀.၀၀) ဧက (၂၀၂၃၄၃ စတုရန်းမီတာ) တွင် ဆောင်ရွက်မည် ဖြစ်ပါသည်။ ယင်းလုပ်ငန်း ဆောင်ရွက်ခွင့် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ (၁-၉-၂၀၀၉) နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃၂/ ၂၀၀၉) အစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည် -

(က) ပုသိမ်ကြီးမြို့နယ်တွင် ဘိလပ်မြေ ထုတ်လုပ်ရန် မူလခွင့်ပြုခဲ့သည့် ကော်မရှင်ခွင့်ပြုမိန့် (၂)ခု အား ကုမ္ပဏီမှ ပြန်လည်အပ်နှံရန်၊

(ခ) ကျောက်ဆည်ဘိလပ်မြေစက်ရုံများတွင် လျှပ်စစ်ရရှိရေးအတွက် ညှိနှိုင်းဆောင်ရွက်ရန်နှင့်

(ဂ) ကုန်သွယ်မှုမူဝါဒကောင်စီသို့ တင်ပြရန်၊

လျှို့ဝှက်

၃။ အထက်ပါ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃၂/ ၂၀၀၉) အစည်းအဝေး လမ်းညွှန်ချက်အရ ဆောင်ရွက်ထားရှိမှုကို ကုမ္ပဏီမှ တင်ပြလာသဖြင့် ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၄၀/ ၂၀၀၉) (၁၈-၁၁-၂၀၀၉) အစည်းအဝေးသို့ တင်ပြခဲ့ရာ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည် ။ နောက်ဆက်တွဲ (က)

(က)ထရီပယ်လ် "အေ" စီးမန့်တ်အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက် မှ မန္တလေးတိုင်း၊ ပုသိမ်ကြီး မြို့နယ်၊ ကျွဲနဖားတောင်၊ ရွှေစာရံကျေးရွာအုပ်စု၊ ကွင်းအမှတ် (၅၆၂/ ခ)၊ ဦးပိုင်အမှတ် (N ၃/ ၂ ၊ N ၅၂ ၊ OA) တွင် ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် ရယူထားသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့် (၂)ခု [မနသ-၀၂၇/၉၆ (၂၈-၆-၁၉၉၆) နှင့် မနသ-၃၈၇/ ၂၀၀၀ (၁၆-၅-၂၀၀၀)] အား ကုမ္ပဏီမှ ပြန်လည်အပ်နှံရန်။

(ခ) ထရီပယ်လ် "အေ" စီးမန့်တ်အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက် မှ မန္တလေးတိုင်း၊ ကျောက်ဆည်မြို့နယ်၊ သံရွာ၊ တောင်တော်ကွင်း၊ ကွင်းအမှတ် (၂၅၂ - ခ) နှင့် (၂၅၂ - ခ ကွင်းပြင်)တွင် ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန်။

၄။ ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၄၀/ ၂၀၀၉) အစည်းအဝေးမှ သဘောတူခွင့်ပြုချက်အရ ပုသိမ်ကြီးမြို့နယ်တွင် လုပ်ငန်းဆောင်ရွက်ရန် ရယူထားသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့် (၂)ခုအား ကုမ္ပဏီမှ ပြန်လည်အပ်နှံပြီး ဖြစ်ပါသည်။ ယခု ကျောက်ဆည်မြို့နယ်တွင် ပြောင်းရွှေ့ဆောင်ရွက်ခြင်းကို သဘောတူသဖြင့် အစိုးရအဖွဲ့သို့တင်ပြရန် အမှတ်(၁) စက်မှု ဝန်ကြီးဌာနမှ တင်ပြလာသည့်အတွက် ဆက်လက်တင်ပြခြင်း ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းအတွက် လျှပ်စစ်ဓါတ်အား တစ်နှစ်လျှင်(၁၂၀၀၀)ကီလိုဝပ် လိုအပ်ချက် နှင့် စပ်လျဉ်း၍ ဓါတ်အားဖြန့်ဖြူးပေးရမည့် ကျောက်ဆည်မြို့နယ်မှာ ဘဲလင်းပင်မဓါတ်အားခွဲရုံတွင် တပ်ဆင်ထားသည့် ၂၃၀/ ၃၃/ ၁၁ ကေဗွီ (၄၅) အမ်ဗွီအေထရန်စဖော်မာမှာ ဝန်အား ပြည့်နေပြီ ဖြစ်သည့်အပြင်၊ ဓါတ်အားစနစ်အတွင်း ဓါတ်အားမလုံလောက်မှုကြောင့် တစ်နိုင်ငံလုံး ဓါတ်အား သုံးစွဲရန် လိုအပ်ချက်ပမာဏ ပြည့်မှီမှုမရှိခြင်း၊ ယခုလက်ရှိ အခြေအနေမှာ (၂၄)နာရီ အပြည့်အဝ ဓါတ်အားပေးနိုင်မှုအခြေအနေ မရှိခြင်းတို့ကြောင့် ခွင့်ပြုပေးနိုင်ခြင်းမရှိသေးပါကြောင်း၊ အမှတ်(၂) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ ပြန်ကြားထားပါသည်။ နောက်ဆက်တွဲ (ခ)

၆။ ကျောက်ဆည် မြို့နယ် ရှိ ဘိလပ်မြေ စက်ရုံ တွင် စက် စွမ်းအားပြည့် လည်ပတ် ရန် လိုအပ်သည့် လျှပ်စစ် ဓါတ်အား ကို အမှတ်(၂) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန မှ ယခု လက်ရှိ အခြေအနေ တွင် နိုင်ငံတော် စီမံချက်အရ ပေးနိုင်ခြင်း မရှိကြောင်း ပြန်ကြားခဲ့ ပါကြောင်း၊ သို့ပါ၍

လျှပ်စစ်ဓါတ်အား လိုအပ်ချက်အား ကုမ္ပဏီပိုင် မီးစက် (၁၄)လုံး ဖြင့် ဆောင်ရွက်မည် ဖြစ်ပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၇။ လုပ်ငန်းအဆိုပြုချက်အား နောက်ဆက်တွဲ (ဂ) ဖြင့် တင်ပြထားပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ(၁၄.၉၃)သန်း အပါအဝင် စုစုပေါင်း ကျပ် (၅၀၀.၀၀) သန်း ဖြစ်ပါသည်။ ယင်းတွင် ငွေပမာဏ ကျပ် (၉၂.၂၀) သန်း၊ စက်ရုံဟောင်းမှ ပြောင်းရွှေ့သည့် စက်ကိရိယာတန်ဖိုး ကျပ် (၅၀.၂၇) သန်း (အမေရိကန်ဒေါ်လာ ၈.၃၈ သန်း )၊ ယခု စက်ရုံအတွက် ထပ်မံတင်သွင်းလိုသည့် စက်ကိရိယာတန်ဖိုး ကျပ်(၃၉.၃၁)သန်း (အမေရိကန်ဒေါ်လာ ၆.၅၅ သန်း) နှင့် အဆောက်အဦတန်ဖိုး ကျပ် (၃၁၈.၂၂) သန်း ထည့်ဝင် ရင်းနှီးမည် ဖြစ်ပါသည်။ အမေရိကန် ဒေါ်လာ (၆.၅၅) သန်း တန်ဖိုးရှိ စက်ကိရိယာများကို ညီနောင်ကုမ္ပဏီများဖြစ်သော Triple "A" International Co., Ltd. , Hpoun Htut San Co., Ltd. , Mine Htet Co., Ltd. နှင့် Eastern Ocean Co., Ltd. တို့၏ တရားဝင်ရရှိထားသော Export Earning များဖြင့် ပြည်ပမှ ဝယ်ယူမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၈။ အဆိုပြု လုပ်ငန်း အတွက် ထုံးကျောက် ကုန်ကြမ်း ရယူ သုံးစွဲမှုနှင့် စပ်လျဉ်း၍ ကျောက်ဆည်မြို့နယ်၊ တောင်နီမတောင်မှ ထုံးကျောက်ကုန်ကြမ်း ထုတ်လုပ်ခွင့်ကို ကုမ္ပဏီအမည် ဖြင့် (၁၀-၁၁-၂၀၀၈)မှ (၉-၁၁-၂၀၁၈)နေ့အထိ (၁၀)နှစ် ထုတ်လုပ်ခွင့်ပြုသည့် သတ္တုတွင်း ဝန်ကြီး ဌာန၏ ခွင့်ပြုမိန့် တင်ပြထားပါသည်။

၉။ လုပ်ငန်းမှ ပုံမှန်နှစ်တွင် ဘိလပ်မြေ (၁၄၀,၀၀၀) တန် ထုတ်လုပ်၍ တစ်တန်လျှင် (၆၆၀၀၀) ကျပ်နှုန်းဖြင့် ပြည်တွင်း၌ ရာနှုန်းပြည့် ရောင်းချမည် ဖြစ်ပါသည်။ ဘိလပ်မြေ ထုတ်လုပ်မည့် နည်းစနစ်မှာ အစို ထုတ်လုပ်မှုနည်းစနစ် (Wet Process) ဖြင့် အသုံးပြုမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၀။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၈)နှစ်နှင့် (၈)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၁၁.၁၈) ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၁။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ဝင်ငွေခွန် ကျပ်(၁၂.၂၀)သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် (၁၈၄၈.၀၀) သန်း ရရှိမည် ဖြစ်ပါသည်။

၁၂။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ လုပ်သား (၇၂၃) ဦး ခန့်ထားမည် ဖြစ်ပါ သည်။ စက်ရုံအလုပ်သမားနှင့် ဝန်ထမ်းများ သက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေး တို့ကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ ငွေကြေးဆိုင်ရာ အထောက်အထားအဖြစ် ကုမ္ပဏီအမည်ဖြင့် ကမ္ဘောဇဘဏ်လီမိတက်ရှိ (၃၁-၇-၂၀၀၉) နေ့ ငွေလက်ကျန် ကျပ် (၇၀.၀၃) သန်းနှင့် Triple "A" International Co., Ltd. ၏ မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်နှင့် မြန်မာနိုင်ငံခြားကုန်သွယ်မှုဘဏ်တို့ရှိ အမေရိကန်ဒေါ်လာ (၁.၂၇) သန်းကို တင်ပြထားပါသည်။

၁၄။ ယင်း လုပ်ငန်းသည် မြန်မာနိုင်ငံသားများ သာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်ခြင်း မရှိပါကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ် မဖြစ်ပွားစေရန် လိုအပ်သော အစီအမံများ ပြုလုပ်ထားမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၅။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့နှင့်အညီ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရပါမည်။

<u>ဆုံးဖြတ်ရန်အချက်</u>

၁၆။ ထရီပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက် မှ မန္တလေးတိုင်း၊ ကျောက်ဆည် မြို့နယ်၊ သံရွာ၊ တောင်တော်ကွင်း၊ ကွင်းအမှတ် (၂၅၂ - ခ)နှင့် (၂၅၂ - ခ ကွင်းပြင်) တွင် ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

<u>မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်</u>

၁၇။ အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊
ဝန်ကြီး၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန။

<u>ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့</u>

လျှို့ဝှက်



# ပြည်ထောင်စုမြန်မာနိုင်ငံတော်
# ကုန်သွယ်မှုဝန်ကြီးဌာနကောင်စီ

နောက်ဆက်တွဲ(က)

၂၀၀၉ခုနှစ်၊ နိုဝင်ဘာလ(၁၈)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှု မူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၄၀/၂၀၀၉) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေးအစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၄-ခ | ၉၅ | (က) ထရိုပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်မှ မန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ်၊ ကျွဲနဖားတောင်၊ ရွှေစာရံကျေးရွာအုပ်စု၊ ကွင်းအမှတ် (၅၆၂/ခ)၊ ဦးပိုင်အမှတ် (N ၃/ ၂၊ N ၅၂၊ OA) တွင် ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် ရယူထားသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့် (၂)ခု [မနသ-၀၂၇/၉၆ (၂၈-၆-၁၉၉၆) နှင့် မနသ- ၃၈၇/ ၂၀၀၀ (၁၆-၅-၂၀၀၀)] အား ကုမ္ပဏီမှ ပြန်လည်အပ်နှံရန်။<br>(ခ) ထရိုပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်မှ မန္တလေးတိုင်း၊ ကျောက်ဆည် မြို့နယ် ၊ သံရွာ ၊ တောင်တော်ကွင်း ၊ ကွင်းအမှတ် (၂၅၂ - ခ ) နှင့် (၂၅၂-ခ ကွင်းပြင်) တွင် ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အမှတ်(၁)စက်မှုဝန်ကြီးဌာန။ |



နောက်ဆက်တွဲ(ခ)



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ်(၂)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
ဝန်ကြီးရုံး
နေပြည်တော်



စာအမှတ်၊ ၅ / MIC-(၃၃) / ၂၀၀၉
ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ စက်တင်ဘာလ( ၅ )ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ ။ သဘောထားမှတ်ချက် ပြန်ကြားခြင်း

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၅-၈-၂၀၀၉)ရက်စွဲပါစာအမှတ်ရက-၆(က)/ မ-၁၀၃၃/၂၀၀၉(၁၂၄၃၈)

၁။ ထရီပယ်လ် "အေ" စီမန့်အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်မှ မန္တလေးတိုင်း ကျောက်ဆည်မြို့နယ် သံရွာ၊ တောင်တော်ကွင်း၊ ကွင်းအမှတ်(၂၅၂-ခ)နှင့် (၂၅၂-ခ)(ကွင်းပြင်)ရှိ မြေဧရိယာ(၅၀)ဧကတွင် စက်ရုံတည်ဆောက်ပြီး ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် လျှပ်စစ်ဓာတ်အားတစ်နှစ်လျှင် (၁၂၀၀၀)ကီလိုဝပ် လိုအပ်ပါသဖြင့် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းစာဖြင့် မေတ္တာရပ်ခံ ညှိနှိုင်းလာပါသည်။

၂။ ဓာတ်အားတောင်းခံလာသည့်နေရာသို့ ဓာတ်အားဖြန့်ဖြူးပေးရမည့် ကျောက်ဆည်မြို့နယ် ဘဲလင်းပင်မ ဓာတ်အားခွဲရုံတွင် တပ်ဆင်ထားသည့် ၂၃၀/၃၃/၁၁ ကေဗွီ (၄၅)အမ်ဗွီအေ ထရန်စဖော်မာမှာ ဝန်အားပြည့်နေပြီဖြစ်သည့်အပြင်၊ ဓာတ်အားစနစ်အတွင်း ဓာတ်အားမလုံလောက်မှုကြောင့် တစ်နိုင်ငံလုံး ဓာတ်အားသုံးစွဲရန် လိုအပ်ချက်ပမာဏ ပြည့်မီမှုမရှိခြင်း၊ ယခုလက်ရှိ အခြေအနေမှာ(၂၄)နာရီ အပြည့်အဝ ဓာတ်အားပေးနိုင်မှု အခြေအနေမရှိခြင်း စသည်တို့ကြောင့် ယခုတောင်းခံထားသော လျှပ်စစ်ဓာတ်အား တစ်နှစ်လျှင် (၁၂၀၀၀)ကီလိုဝပ်ကို ခွင့်ပြုပေးနိုင်ခြင်း မရှိသေးပါကြောင်း သဘောထားမှတ်ချက်အား ပြန်ကြားအပ်ပါသည်။

ဝန်ကြီး( ကိုယ်စား )
(ခင်မောင်ဇော်၊ ညွှန်ကြားရေးမှူးချုပ်)

ပြည်ထောင်စုမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရုံးအမှတ်(၃၂)၊ နေပြည်တော်


FAX: 95-67-406333 တယ်လီဖုန်း-၀၆၇-၄၀၆၃၃၄၊ ၄၀၆၀၇၅။


စာအမှတ်၊ ရက-၆(က)/မ-၁၀၃၃/ ၂၀၀၉(၂၀၉၆၀ )၊
ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ နိုဝင်ဘာလ ၃၀ ရက်။

သို့/

ဝန်ကြီးရုံး
အမှတ်(၁) စက်မှုဝန်ကြီးဌာန

အကြောင်းအရာ။ ။ ထရီပယ်လ် "အေ"စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက် (Triple "A" Cement Int'l Co., Ltd.)မှ မန္တလေးတိုင်း၊ ကျောက်ဆည်ခရိုင်၊ ကျောက်ဆည်မြို့နယ် တွင် ဘိလပ်မြေထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်းကိစ္စ။

ရည် ညွှန်း ချက် ။ ။ (၁) အမှတ်(၁) စက်မှုဝန်ကြီးဌာန ၏ (၁၇-၇-၂၀၀၉) ရက်စွဲပါ စာအမှတ်၊ ၈/၁ စ(၁)/၂၀၀၉ (၆၄၂၆)။

(၂) ထရီပယ်လ်"အေ"စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်၏ (၁၀-၁၁-၂၀၀၉) ရက်စွဲပါ တင်ပြစာ။

၁။ အထက် အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ ရည်ညွှန်းချက်ပါစာများဖြင့် တင်ပြခြင်းကို (၁၈-၁၁-၂၀၀၉)နေ့တွင်ကျင်းပသော ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၄၀/ ၂၀၀၉)အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည် -

(က)ထရီပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက် မှ မန္တလေးတိုင်း၊ ပုသိမ်ကြီး မြို့နယ်၊ ကျွဲနဖားတောင်၊ ရွှေစာရံကျေးရွာအုပ်စု၊ ကွင်းအမှတ် (၅၆၂/ ခ)၊ ဦးပိုင်အမှတ် (N ၃/ ၂၊ N ၅၂၊ OA) တွင် ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် ရယူထားသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့် (၂)ခု [မနသ ၀၂၇/ ၉၆ (၂၈-၆-၁၉၉၆) နှင့် မနသ ၁၈၇/ ၂၀၀၀ (၁၆-၅-၂၀၀၀)] အား ကုမ္ပဏီမှ ပြန်လည်အပ်နှံရန်။

(ခ) ထရီပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက် မှ မန္တလေးတိုင်း၊ ကျောက်ဆည် မြို့နယ်၊ သံရွာ၊ တောင်တော်ကွင်း၊ ကွင်းအမှတ် ( ၂၅၂ - ခ ) နှင့် (၂၅၂-ခ ကွင်းပြင်) တွင် ဘိလပ်မြေထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန်။

၃။ အထက်ပါ ဆုံးဖြတ်ချက် အပိုဒ် ၂(က) အရ ဆောင်ရွက်ပြီး ဖြစ်ပါ၍ အပိုဒ် ၂(ခ) အရ ရင်းနှီးမြှုပ်နှံမှုအဆိုပြုလွှာကို အစိုးရအဖွဲ့ အစည်းအဝေးသို့ ဆက်လက်တင်ပြနိုင်ရန်အတွက် အဆိုပြုလွှာ (၁၅)စုံကို Adobe Acrobat Reader (Pdf) File ဖြင့် ထည့်သွင်းထားသော CD Copy နှင့်အတူ ဤကော်မရှင်သို့ ပေးပို့ပါရန် အကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(ဗိုလ်မှူးကြီး သူရိန်ဇော်၊ အတွင်းရေးမှူး)

မိတ္တူ -

(၁) ဦးဆောင်ညွှန်ကြားရေးမှူး၊
မြန်မာ့ကျွေထည်မြေထည်လုပ်ငန်း။

(၂) ထရီပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်။

(၃) ရုံးလက်ခံ/ မျှောစာတွဲ။

အကြောင်းအရာ ။ ။ ထရီပယ်လ် "အေ" စီးမန့်တ် အင်တာ နေရှင်နယ် ကုမ္ပဏီ လီမိတက် (Triple "A" Cement International Co., Ltd. )မှ မန္တလေးတိုင်း၊ ကျောက်ဆည် ခရိုင်၊ ကျောက်ဆည်မြို့နယ် တွင် ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်းကိစ္စ။

၁။ အထက် အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ (၁-၉-၂၀၀၉) နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃၂/၂၀၀၉)အစည်းအဝေးသို့ တင်ပြခဲ့ရာ အောက်ပါအတိုင်းဆုံးဖြတ်ခဲ့ပါသည်။

(က) ပုသိမ်ကြီး မြို့နယ်တွင် ဘိလပ်မြေ ထုတ်လုပ်ရန် မူလ ခွင့်ပြုခဲ့သည့် ကော်မရှင် ခွင့်ပြုမိန့် (၂)ခုအား ကုမ္ပဏီမှ ပြန်လည်အပ်နှံရန်၊

(ခ) ကျောက်ဆည် ဘိလပ်မြေ စက်ရုံ များတွင် လျှပ်စစ် ရရှိရေး အတွက် ညှိနှိုင်း ဆောင်ရွက်ရန် နှင့်

(ဂ) ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြရန်၊

၂။ အထက်ပါ ကော်မရှင်၏ (၃၂/၂၀၀၉) (၁-၉-၂၀၀၉) အစည်းအဝေး လမ်းညွှန်ချက်အရ ကုမ္ပဏီမှ ဆောင်ရွက်ထားရှိမှု အခြေအနေကို အောက်ပါအတိုင်း တင်ပြလာပါသဖြင့် ကုန်သွယ်မှုမူဝါဒကောင်စီသို့ ဆက်လက်တင်ပြခြင်း ဖြစ်ပါသည် -

(က)မန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ်တွင် ဘိလပ်မြေ ထုတ်လုပ်ခွင့် ရရှိထားသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့် (၂)ခု [မနသ-၀၂၇/၉၆ (၂၈-၆-၁၉၉၆) နှင့် မနသ- ၃၈၇/ ၂၀၀၀ (၁၆-၅-၂၀၀၀)] အား ပြန်လည် အပ်နှံခွင့်ပြုပါရန်၊

(ခ) ကျောက်ဆည်မြို့နယ်ရှိ ဘိလပ်မြေစက်ရုံတွင် စက်စွမ်းအားပြည့် လည်ပတ်ရန် လိုအပ်သည့် လျှပ်စစ်ဓါတ်အား ၂၀၀၀၀ KVA အား အမှတ်(၂) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ ယခုလက်ရှိ အခြေအနေတွင် နိုင်ငံတော် စီမံချက်အရ ပေးနိုင်ခြင်း မရှိကြောင်း ပြန်ကြားခဲ့ပါကြောင်း၊ သို့ပါ၍ လျှပ်စစ်ဓါတ်အား လိုအပ်ချက်အား ကုမ္ပဏီပိုင် မီးစက် (၁၄)လုံး ဖြင့် ဆောင်ရွက်မည် ဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ ကုန်သွယ်မှု မူဝါဒ ကောင်စီ သို့ တင်ပြမည့် အမှာစာ (စာချော) တွင် လက်မှတ် ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

(ဗိုလ်မှူးကြီးသူရိန်ဇော်)
အတွင်းရေးမှူး

ဥက္ကဋ္ဌ

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ရက-၆(ခ)/မ-၁၄၇၂/၂၀၀၉(၂၀၁၂၆)၊

**ထရီပယ်လ် "အေ" စီးမန့်တ် အင်တာ နေရှင်နယ် ကုမ္ပဏီ လီမိတက် (Triple "A" Cement International Co., Ltd. )မှ မန္တလေးတိုင်း ၊ ကျောက်ဆည် ခရိုင်၊ ကျောက်ဆည်မြို့နယ် တွင် ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်းကိစ္စ။**

**အကျဉ်းချုပ်**။ ။ မြန်မာ ကုမ္ပဏီဖြစ်သော ထရီပယ်လ်"အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက်(Triple "A" Cement International Co., Ltd.) သည် မန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ်၊ ကျွဲနဖားတောင်၊ ရွှေစာရံ ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၅၆၂/ ခ)၊ ဦးပိုင်အမှတ် (N ၃/ ၂ ၊ N ၅၂ ၊ OA) ရှိ မြေ (၁၄.၅၂) ဧကတွင် ကော်မရှင် ခွင့်ပြုမိန့် (၂)ခု [ မနသ- ၀၂၇/ ၉၆ (၂၈-၆-၁၉၉၆) နှင့် မနသ- ၃၈၇/၂၀၀၀ (၁၆-၅-၂၀၀၀)] ဖြင့် ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက် ခွင့် ရရှိခဲ့ ပါသည်။ ယခုအခါ နိုင်ငံတော်၏ လမ်းညွှန်ချက်အရ မန္တလေးတိုင်း၊ ကျောက်ဆည်မြို့နယ်သို့ ပြောင်းရွှေ့တည်ဆောက်ရန်အတွက် အမှတ်(၁) စက်မှု ဝန်ကြီးဌာန၏ ထောက်ခံချက်ဖြင့် အဆိုပြု ချက် တင်ပြလာခြင်း ဖြစ်ပါသည်။

ယခု အဆိုပြုလုပ်ငန်းကို ကုမ္ပဏီ၏ အုပ်ချုပ်မှုဒါရိုက်တာ ဖြစ်သူ ဦးရှင်ချောက် အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော ကွင်းအမှတ် (၂၅၂ - ခ) နှင့် (၂၅၂ - ခ ကွင်းပြင်)၊ ကျောက်ဆည်မြို့နယ်၊ မန္တလေးတိုင်းရှိ လဲန (၃၉) မြေ (၅၀.၀၀) ဧက (၂၀၂၃၄၃ စတုရန်းမီတာ) တွင် ဆောင်ရွက်မည် ဖြစ်ပါသည်။

အဆိုပြုလုပ်ငန်းအတွက် လျှပ်စစ်ဓါတ်အား တစ်နှစ်လျှင်(၁၂၀၀၀)ကီလိုဝပ် လိုအပ်ချက်နှင့် စပ်လျဉ်း၍ ဓါတ်အားဖြန့်ဖြူးပေးရမည့် ကျောက်ဆည်မြို့နယ်မှာ ဘဲလင်းပင်မဓါတ်အားခွဲရုံတွင် တပ်ဆင်ထားသည့် ၂၃၀/ ၃၃/ ၁၁ ကေဗွီ (၄၅) အမ်ဗွီအေထရန်စဖော်မာမှာ ဝန်အား ပြည့်နေပြီဖြစ်သည့်အပြင်၊ ဓါတ်အားစနစ်အတွင်း ဓါတ်အားမလုံလောက်မှုကြောင့် တစ်နိုင်ငံလုံး ဓါတ်အားသုံးစွဲရန် လိုအပ်ချက်ပမာဏ ပြည့်မှီမှုမရှိခြင်း၊ ယခုလက်ရှိ အခြေအနေမှာ (၂၄)နာရီ အပြည့်အဝဓါတ်အားပေးနိုင်မှုအခြေအနေ မရှိခြင်းတို့ကြောင့် ခွင့်ပြုပေးနိုင်ခြင်းမရှိသေးပါကြောင်း၊ အမှတ်(၂) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ သဘောထားပြန်ကြားထားပါသည်။

အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ကော်မရှင်၏ (၃၂/၂၀၀၉) (၁-၉-၂၀၀၉) အစည်းအဝေး လမ်းညွှန်ချက်အရ ကုမ္ပဏီမှ ဆောင်ရွက်ထားရှိမှု အခြေအနေကို အောက်ပါအတိုင်း တင်ပြလာပါသဖြင့် ကုန်သွယ်မှုမူဝါဒကောင်စီသို့ ဆက်လက်တင်ပြခြင်း ဖြစ်ပါသည် -

- မန္တလေးတိုင်း၊ ပုသိမ်ကြီး မြို့နယ်တွင် ဘိလပ်မြေ ထုတ်လုပ်ခွင့် ရရှိ ထားသည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်(၂)ခု[မနသ-၀၂၇/၉၆(၂၈-၆-၁၉၉၆) နှင့် မနသ- ၃၈၇/ ၂၀၀၀ (၁၆-၅-၂၀၀၀) ] အား ပြန်လည် အပ်နှံခွင့် ပြုပါရန်၊
- ကျောက်ဆည်မြို့နယ်ရှိ ဘိလပ်မြေစက်ရုံတွင် စက်စွမ်းအားပြည့် လည်ပတ်ရန် လိုအပ်သည့် လျှပ်စစ် ဓါတ်အား ၂၀၀၀၀ KVA အား အမှတ်(၂)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ ယခုလက်ရှိ အခြေအနေတွင် နိုင်ငံတော် စီမံချက်အရ ပေးနိုင်ခြင်း မရှိကြောင်း

ပြန်ကြားခဲ့ပါကြောင်း၊ သို့ပါ၍ လျှပ်စစ်ဓါတ်အား လိုအပ်ချက်အား ကုမ္ပဏီပိုင် မီးစက် (၁၄)လုံး ဖြင့် ဆောင်ရွက်မည် ဖြစ်ပါသည်။

လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ(၁၄.၉၃)သန်း အပါအဝင် စုစုပေါင်း ကျပ်(၅၀၀.၀၀)သန်း ဖြစ်ပါသည်။ယင်းတွင်ငွေပမာဏကျပ် (၉၂.၂၀) သန်း၊ စက်ရုံဟောင်းမှ ပြောင်းရွှေ့သည့် စက်ကိရိယာတန်ဖိုး ကျပ် (၅၀.၂၇) သန်း (အမေရိကန်ဒေါ်လာ ၈.၃၈ သန်း )၊ ယခု စက်ရုံအတွက် ထပ်မံတင်သွင်းလိုသည့် စက်ကိရိယာတန်ဖိုး ကျပ်(၃၉.၃၁)သန်း (အမေရိကန်ဒေါ်လာ ၆.၅၅ သန်း) နှင့် အဆောက်အဦတန်ဖိုး ကျပ် (၃၁၈.၂၂) သန်း ထည့်ဝင် ရင်းနှီးမည် ဖြစ်ပါသည်။ အမေရိကန် ဒေါ်လာ (၆.၅၅) သန်း တန်ဖိုးရှိ စက်ကိရိယာများကို ညီနောင်ကုမ္ပဏီများဖြစ်သော Triple "A" International Co., Ltd. , Hpoun Htut San Co., Ltd. , Mine Htet Co., Ltd. နှင့် Eastern Ocean Co., Ltd. တို့၏ တရားဝင်ရရှိထားသော Export Earning များဖြင့် ပြည်ပမှ ဝယ်ယူမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

အဆိုပြု လုပ်ငန်း အတွက် ထုံးကျောက် ကုန်ကြမ်း ရယူ သုံးစွဲမှု နှင့် စပ်လျဉ်း၍ ကျောက်ဆည် မြို့နယ်၊ တောင်နီမတောင်မှ ထုံးကျောက်ကုန်ကြမ်း ထုတ်လုပ်ခွင့်ကို ကုမ္ပဏီအမည် ဖြင့် (၁၀-၁၁-၂၀၀၈)မှ (၉-၁၁-၂၀၁၈)နေ့အထိ (၁၀)နှစ် ထုတ်လုပ်ခွင့်ပြုသည့် သတ္တုတွင်း ဝန်ကြီး ဌာန၏ ခွင့်ပြုမိန့် တင်ပြထားပါသည်။

လုပ်ငန်းမှ ပုံမှန်နှစ်တွင် ဘိလပ်မြေ (၁၄၀,၀၀၀) တန် ထုတ်လုပ်၍ တစ်တန်လျှင် (၆၆၀၀၀) ကျပ်နှုန်းဖြင့် ပြည်တွင်း၌ ရာနှုန်းပြည့် ရောင်းချမည် ဖြစ်ပါသည်။ ဘိလပ်မြေ ထုတ်လုပ်မည့် နည်းစနစ်မှာ အစို ထုတ်လုပ်မှုနည်းစနစ် (Wet Process) ဖြင့် အသုံးပြုမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

လုပ်ငန်း၏ အရင်းကြေကာလမှာ (၈)နှစ်နှင့် (၈)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၁၁.၁၈) ရာခိုင်နှုန်း ဖြစ်ပါသည်။

လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ဝင်ငွေခွန် ကျပ်(၁၂.၂၁)သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် (၁၈၄၈.၀၀) သန်း ရရှိမည် ဖြစ်ပါသည်။

လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှလုပ်သား(၇၂၃)ဦးခန့်ထားမည်ဖြစ်ပါသည်။

ငွေကြေးဆိုင်ရာ အထောက်အထားအဖြစ် ကုမ္ပဏီအမည်ဖြင့် ကမ္ဘောဇဘဏ်လီမိတက်ရှိ (၃၁-၇-၂၀၀၉) နေ့ ငွေလက်ကျန် ကျပ် (၇၀.၀၃) သန်းနှင့် Triple "A" International Co., Ltd. ၏ မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်နှင့် မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်တို့ ရှိ အမေရိကန်ဒေါ်လာ (၁.၂၇) သန်းကို တင်ပြထားပါသည်။

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့နှင့်အညီ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရပါမည်။

**ဆုံးဖြတ်ရန်အချက်**

(က) ထရီပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် မှမန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ်၊ ကျွဲနဖားတောင်၊ ရွှေစာရံကျေးရွာ အုပ်စု၊ ကွင်းအမှတ် (၅၆၂/ ခ)၊ ဦးပိုင်အမှတ် (N ၃/ ၂၊ N ၅၂၊ OA) တွင် ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် ရယူထားသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့် (၂)ခု [ မနသ - ၀၂၇/ ၉၆ ( ၂၈-၆-၁၉၉၆ ) နှင့် မနသ- ၃၈၇/ ၂၀၀၀ (၁၆-၅-၂၀၀၀)] အား ကုမ္ပဏီမှ ပြန်လည်အပ်နှံခြင်းကို သဘောတူ - မတူ။

(ခ) ထရီပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်မှ မန္တလေးတိုင်း၊ ကျောက်ဆည်မြို့နယ် ၊ သံရွာ ၊ တောင်တော်ကွင်း ၊ ကွင်းအမှတ် ( ၂၅၂ - ခ ) နှင့် (၂၅၂-ခ ကွင်းပြင်) တွင် ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

ဥက္ကဋ္ဌသိသာပါရန်တင်ပြချက်

၁။ အဆိုပြုစက်ရုံအတွက် စက်ရုံဟောင်းမှ ပြောင်းရွှေ့သည့် စက်ကိရိယာတန်ဖိုး ကျပ်(၅၀.၂၇)သန်း (အမေရိကန်ဒေါ်လာ ၈.၃၈ သန်း)နှင့် ထပ်မံတင်သွင်းလိုသည့် စက်ကိရိယာတန်ဖိုး ကျပ်(၃၉.၃၁) သန်း(အမေရိကန်ဒေါ်လာ ၆.၅၅ သန်း) ဖြစ်ပါသည်။

၂။ စက်ကိရိယာများကို ကြိုတင် တင်သွင်းခွင့်ပြုပါရန် စက်မှု(၁)၏ ထောက်ခံချက်ဖြင့် တင်ပြခဲ့ရာ ကော်မရှင်အစည်းအဝေးများမှ တင်သွင်းခွင့်ပြုခဲ့သည့် အရေအတွက်နှင့် တန်ဖိုးတို့ကို အောက်ပါ အတိုင်း စိစစ်တင်ပြအပ်ပါသည်။

| စဉ် | အမျိုးအမည် | အရေအတွက် | တန်ဘိုး US$ (သန်း) | ခွင့်ပြုခဲ့သည့် MIC အစည်းအဝေး |
|---|---|---|---|---|
| ၁။ | ဆောက်လုပ်ရေးနှင့် လုပ်ငန်းသုံးပစ္စည်းများ | ၅၇ မျိုး | ၄.၇၅ | ၁၄/ ၂၀၀၉ (၂၉-၄-၂၀၀၉) (ပ - ကြိမ်) |
| ၂။ | စက်၊ ယာဉ်၊ ယန္တရား နှင့်စက်အပိုပစ္စည်းများ | ၁၁ မျိုး | ၀.၇၆ | ၂၄/ ၂၀၀၉ (၈-၇-၂၀၀၉) (ဒု - ကြိမ်) |
| ၃။ | စက်၊ စက်အပိုပစ္စည်း၊ ယာဉ်၊ ယန္တရားနှင့် လျှပ်စစ်ပစ္စည်းများ | ၄၁ မျိုး | ၁.၅၃ | (၄၀/၂၀၀၉) (၁၈-၁၁-၂၀၀၉) (တ - ကြိမ်) |
| | စုစုပေါင်း (ပ + ဒု+တ) | ၁၀၉ မျိုး | ၇.၀၄ | |

၃။ အဆိုပြု ဘိလပ်မြေစက်ရုံအတွက် ပြည်ပမှ စက်ပစ္စည်းများ အမေရိကန် ဒေါ်လာ (၆.၅၅) သန်း ဘိုး တင်သွင်းမည်ဟု ရင်းနှီးမြှုပ်နှံမှု အဆိုပြုလွှာတွင် ဖော်ပြထားပါသည်။ ကြိုတင် တင်သွင်းခွင့် တင်ပြထားသည့် စက်တန်ဘိုး မှာ စုစုပေါင်း အမေရိကန်ဒေါ်လာ (၇.၀၄) သန်းဘိုး ဖြစ်သဖြင့် ရင်းနှီးမြှုပ်နှံမှု အဆိုပြုလွှာပါ တန်ဘိုးထက် US$ (၀.၄၉) သန်း များနေကြောင်း စိစစ် တင်ပြ အပ် ပါသည်။

၄။ တတိယအကြိမ် ကြိုတင် တင်သွင်းခွင့် လျှောက်ထားရခြင်းမှာ ရင်းနှီးမြှုပ်နှံမှု အဆိုပြုလွှာ တင်ပြစဉ်က မပါရှိဘဲ ပြောင်းရွှေ့လုပ်ငန်းများ ဆောင်ရွက်စဥ် မထင်မှတ်သော ပျက်စီးမှုများနှင့် ပြန်လည်အစားထိုးမှု များကြောင့် လည်းကောင်း၊ ယန္တရား လိုအပ်လာမှုကြောင့် လည်းကောင်း၊ ကြိုတင်တွက်ချက်ထားမှုနှင့် မြေပြင် လက်တွေ့အခြေအနေ ကွာဟမှု အချို့ကြောင့် လည်းကောင်း စသည့်အချက်များ ကြောင့် တတိယအကြိမ် နောက်တိုးစာရင်း အနေဖြင့် လျှောက်ထားရပါသဖြင့် မှာယူတင်သွင်းခွင့် ရရှိပြီး တန်ဘိုးသည် ရင်းနှီးမြှုပ်နှံမှု အဆိုပြုလွှာပါ တန်ဘိုးထက် များရခြင်း ဖြစ်ပါကြောင်း၊ ကြိုတင်တင်သွင်းခွင့်ရရှိထားသည့်ပစ္စည်းများ အားလုံး တင်သွင်းပြီးမှသာ ရင်းနှီးမြှုပ်နှံမှုအဆိုပြုလွှာတွင် လိုအပ်သလို ပြင်ဆင်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ကုမ္ပဏီမှ ရှင်းလင်းတင်ပြထားပါသည်။

လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/မ-၁၄၇၂/၂၀၀၉(၂၀၁၂၆)၊
ရက်စွဲ ၊ ၂၀၀၉ ခုနှစ် ၊ နိုဝင်ဘာလ ၁၂ ရက်။

**ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ ။ ။ ထရီပယ်လ် "အေ" စီးမန့်တ် အင်တာ နေရှင်နယ် ကုမ္ပဏီ လီမိတက် (Triple "A" Cement International Co., Ltd. )မှ မန္တလေးတိုင်း ၊ ကျောက်ဆည် ခရိုင်၊ ကျောက်ဆည်မြို့နယ် တွင် ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ထရီပယ်လ်"အေ"စီးမန့်တ်အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက် (Triple "A" Cement International Co., Ltd.) သည် မန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ်၊ ကျွဲနဖားတောင်၊ ရွှေစာရံ ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၅၆၂/ ခ)၊ ဦးပိုင်အမှတ် (N ၃/ ၂ ၊ N ၅၂ ၊ OA) ရှိ မြေ (၁၄.၅၂) ဧကတွင် ကော်မရှင် ခွင့်ပြုမိန့် (၂)ခု [ မနသ- ၀၂၇/ ၉၆ (၂၈-၆-၁၉၉၆) နှင့် မနသ- ၃၈၇/၂၀၀၀ (၁၆-၅-၂၀၀၀)] ဖြင့် ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ရရှိခဲ့ပါသည်။ ယခုအခါ နိုင်ငံတော်၏ လမ်းညွှန်ချက်အရ မန္တလေးတိုင်း၊ ကျောက်ဆည်မြို့နယ်သို့ ပြောင်းရွှေ့တည်ဆောက်ရန်အတွက် အမှတ်(၁) စက်မှု ဝန်ကြီးဌာန၏ ထောက်ခံချက်ဖြင့် အဆိုပြုချက် တင်ပြလာခြင်း ဖြစ်ပါသည်။

၂။ ယခု အဆိုပြုလုပ်ငန်းကို ကုမ္ပဏီ၏ အုပ်ချုပ်မှုဒါရိုက်တာ ဖြစ်သူ ဦးရွှင်ချောက် အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော ကွင်းအမှတ် (၂၅၂ - ခ) နှင့် (၂၅၂ - ခ ကွင်းပြင်)၊ ကျောက်ဆည်မြို့နယ်၊ မန္တလေးတိုင်းရှိ လန (၃၉) မြေ (၅၀.၀၀) ဧက (၂၀၂၃၄၃ စတုရန်းမီတာ) တွင် ဆောင်ရွက်မည် ဖြစ်ပါသည်။ ယင်းလုပ်ငန်း ဆောင်ရွက်ခွင့် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ (၁-၉-၂၀၀၉) နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃၂/ ၂၀၀၉) အစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည် -

(က) ပုသိမ်ကြီးမြို့နယ်တွင် ဘိလပ်မြေ ထုတ်လုပ်ရန် မူလခွင့်ပြုခဲ့သည့် ကော်မရှင်ခွင့်ပြုမိန့် (၂)ခု အား ကုမ္ပဏီမှ ပြန်လည်အပ်နှံရန်၊

(ခ) ကျောက်ဆည်ဘိလပ်မြေစက်ရုံများတွင် လျှပ်စစ်ရရှိရေးအတွက် ညှိနှိုင်းဆောင်ရွက်ရန်နှင့်

(ဂ) ကုန်သွယ်မှုမူဝါဒကောင်စီသို့ တင်ပြရန်၊

၃။ အဆိုပြုလုပ်ငန်းအတွက် လျှပ်စစ်ဓါတ်အား တစ်နှစ်လျှင်(၁၂၀၀၀)ကီလိုဝပ် လိုအပ်ချက်နှင့် စပ်လျဉ်း၍ ဓါတ်အားဖြန့်ဖြူးပေးရမည့် ကျောက်ဆည်မြို့နယ်မှာ ဘဲလင်းပင်မဓါတ်အားခွဲရုံတွင် တပ်ဆင်ထားသည့် ၂၃၀/ ၃၃/ ၁၁ ကေဗွီ (၄၅) အမ်ဗွီအေထရန်စဖော်မာမှာ ဝန်အား ပြည့်နေပြီဖြစ်သည့်အပြင်၊ ဓါတ်အားစနစ်အတွင်း ဓါတ်အားမလုံလောက်မှုကြောင့် တစ်နိုင်ငံလုံး ဓါတ်အားသုံးစွဲရန် လိုအပ်ချက်ပမာဏ ပြည့်မှီမှုမရှိခြင်း၊ ယခုလက်ရှိ အခြေအနေမှာ (၂၄)နာရီ အပြည့်အဝ ဓါတ်အားပေးနိုင်မှုအခြေအနေ မရှိခြင်းတို့ကြောင့် ခွင့်ပြုပေးနိုင်ခြင်းမရှိသေးပါကြောင်း၊ အမှတ်(၂) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ သဘောထားပြန်ကြားထားပါသည်။ နောက်ဆက်တွဲ (က)

၄။ အထက်အပိုဒ် (၂)ပါ ကော်မရှင်၏ (၃၂/၂၀၀၉) (၁-၉-၂၀၀၉) အစည်းအဝေး လမ်းညွှန်ချက် အရ ကုမ္ပဏီမှ ဆောင်ရွက်ထားရှိမှု အခြေအနေကို အောက်ပါအတိုင်း တင်ပြလာပါသဖြင့် ကုန်သွယ်မှုမူဝါဒကောင်စီသို့ ဆက်လက်တင်ပြခြင်း ဖြစ်ပါသည် -

(က) မန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ်တွင် ဘိလပ်မြေထုတ်လုပ်ခွင့် ရရှိထားသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့် (၂)ခု [မနသ-၀၂၇/၉၆ (၂၈-၆-၁၉၉၆) နှင့် မနသ- ၃၈၇/ ၂၀၀၀ (၁၆-၅-၂၀၀၀) ] အား ပြန်လည် အပ်နှံခွင့် ပြုပါရန်၊ နောက်ဆက်တွဲ(ခ)

(ခ) ကျောက်ဆည်မြို့နယ်ရှိ ဘိလပ်မြေစက်ရုံတွင် စက်စွမ်းအားပြည့် လည်ပတ်ရန် လိုအပ်သည့် လျှပ်စစ်ဓါတ်အား ၂၀၀၀၀ KVA အား အမှတ်(၂) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ ယခုလက်ရှိ အခြေအနေတွင် နိုင်ငံတော် စီမံချက်အရ ပေးနိုင်ခြင်း မရှိကြောင်း ပြန်ကြားခဲ့ပါကြောင်း၊ သို့ပါ၍ လျှပ်စစ်ဓါတ်အား လိုအပ်ချက်အား ကုမ္ပဏီပိုင် မီးစက် (၁၄)လုံး ဖြင့် ဆောင်ရွက်မည် ဖြစ်ပါသည်။

၅။ လုပ်ငန်းအဆိုပြုချက်အား နောက်ဆက်တွဲ (ဂ) ဖြင့် တင်ပြထားပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ(၁၄.၉၃)သန်း အပါအဝင် စုစုပေါင်း ကျပ် (၅၀၀.၀၀) သန်း ဖြစ်ပါသည်။ ယင်းတွင် ငွေပမာဏ ကျပ် (၉၂.၂၀) သန်း၊ စက်ရုံဟောင်းမှ ပြောင်းရွှေ့သည့် စက်ကိရိယာတန်ဖိုး ကျပ် (၅၀.၂၇) သန်း (အမေရိကန်ဒေါ်လာ ၈.၃၈ သန်း )၊ ယခု စက်ရုံအတွက် ထပ်မံတင်သွင်းလိုသည့် စက်ကိရိယာတန်ဖိုး ကျပ်(၃၉.၃၁)သန်း (အမေရိကန်ဒေါ်လာ ၆.၅၅ သန်း) နှင့် အဆောက်အဦတန်ဖိုး ကျပ် (၃၁၈.၂၂) သန်း ထည့်ဝင် ရင်းနှီးမည် ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ (၆.၅၅) သန်း တန်ဖိုးရှိ စက်ကိရိယာများကို ညီနောင်ကုမ္ပဏီများဖြစ်သော Triple "A" International Co., Ltd. , Hpoun Htut San Co., Ltd. , Mine Htet Co., Ltd. နှင့် Eastern Ocean Co., Ltd. တို့၏ တရားဝင်ရရှိထားသော Export Earning များဖြင့် ပြည်ပမှ ဝယ်ယူမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၆။ အဆိုပြု လုပ်ငန်း အတွက် ထုံးကျောက် ကုန်ကြမ်း ရယူ သုံးစွဲမှုနှင့် စပ်လျဉ်း၍ ကျောက်ဆည်မြို့နယ်၊ တောင်နီမတောင်မှ ထုံးကျောက်ကုန်ကြမ်း ထုတ်လုပ်ခွင့်ကို ကုမ္ပဏီအမည်ဖြင့် (၁၀-၁၁-၂၀၀၈)မှ (၉-၁၁-၂၀၁၈)နေ့အထိ (၁၀)နှစ် ထုတ်လုပ်ခွင့်ပြုသည့် သတ္တုတွင်း ဝန်ကြီးဌာန၏ ခွင့်ပြုမိန့် တင်ပြထားပါသည်။

၇။ လုပ်ငန်းမှ ပုံမှန်နှစ်တွင် ဘိလပ်မြေ (၁၄၀,၀၀၀) တန် ထုတ်လုပ်၍ တစ်တန်လျှင် (၆၆၀၀၀) ကျပ်နှုန်းဖြင့် ပြည်တွင်း၌ ရာနှုန်းပြည့် ရောင်းချမည် ဖြစ်ပါသည်။ ဘိလပ်မြေ ထုတ်လုပ်မည့် နည်းစနစ်မှာ အစို ထုတ်လုပ်မှုနည်းစနစ် (Wet Process) ဖြင့် အသုံးပြုမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၈။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| | |
|---|---|
| | (ကျပ်သန်း) |
| (က) ဝင်ငွေ | ၉၂၄၀.၀၀ |
| (ခ) အသုံးစရိတ် | ၉၂၁၁.၅၂ |
| (ဂ) အသားတင်အမြတ် | ၂၈.၄၈ |

၉။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၈)နှစ်နှင့် (၈)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၁၁.၁၈) ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၀။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ဝင်ငွေခွန် ကျပ်(၁၂.၂၀)သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် (၁၈၄၈.၀၀) သန်း ရရှိမည် ဖြစ်ပါသည်။

၁၁။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ လုပ်သား (၇၂၃) ဦး ခန့်ထားမည် ဖြစ်ပါသည်။ စက်ရုံအလုပ်သမားနှင့် ဝန်ထမ်းများ သက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးအတွက် ဝန်ထမ်းများ ၏ အဝတ်အစားများ လျှော်ဖွပ်ရန် ဆပ်ပြာမှုန့်များ အခမဲ့ ပေးဝေခြင်း၊ ခြင်ထောင်များ၊ သံသေတ္တာများကို အရစ်ကျစနစ်ဖြင့် ရောင်းချပေးခြင်း၊ ဝန်ထမ်းသက်သာဆိုင်ဖွင့်လှစ်ရောင်းချပေးခြင်း၊ တယ်လီဖုန်းများ ထားရှိပေးခြင်း၊ ရာသီအလိုက် ပွဲတော်များ ကျင်းပပေးခြင်းတို့ကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၂။ ငွေကြေးဆိုင်ရာ အထောက်အထားအဖြစ် ကုမ္ပဏီအမည်ဖြင့် ကမ္ဘောဇဘဏ်လီမိတက်ရှိ (၃၁-၇-၂၀၀၉) နေ့ ငွေလက်ကျန် ကျပ် (၇၀.၀၃) သန်းနှင့် Triple “A” International Co., Ltd. ၏ မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်နှင့် မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်တို့ရှိ အမေရိကန်ဒေါ်လာ (၁.၂၇) သန်းကို တင်ပြထားပါသည်။

၁၃။ ယင်း လုပ်ငန်းသည် မြန်မာနိုင်ငံသားများ သာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်ခြင်း မရှိပါကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ် မဖြစ်ပွားစေရန် လိုအပ်သော အစီအမံများ ပြုလုပ်ထားမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၄။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့နှင့်အညီ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရပါမည်။

၁၅။ ဆုံးဖြတ်ရန်အချက်

(က)ထရီပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက် မှ မန္တလေးတိုင်း၊ ပုသိမ်ကြီး မြို့နယ်၊ ကျွဲနဖားတောင်၊ ရွှေစာရံကျေးရွာအုပ်စု၊ ကွင်းအမှတ် (၅၆၂/ ခ)၊ ဦးပိုင်အမှတ် (N ၃/ ၂ ၊ N ၅၂ ၊ OA) တွင် ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် ရယူထားသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့် (၂)ခု [မနသ-၀၂၇/၉၆ (၂၈-၆-၁၉၉၆) နှင့် မနသ- ၃၈၇/ ၂၀၀၀ (၁၆-၅-၂၀၀၀)] အား ကုမ္ပဏီမှ ပြန်လည်အပ်နှံခြင်းကို သဘောတူ - မတူ။

(ခ) ထရီပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက် မှ မန္တလေးတိုင်း၊ ကျောက်ဆည် မြို့နယ် ၊ သံရွာ ၊ တောင်တော်ကွင်း ၊ ကွင်းအမှတ် ( ၂၅၂ - ခ ) နှင့် (၂၅၂-ခ ကွင်းပြင်) တွင် ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

၁၆။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်

ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း )
ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊
ဝန်ကြီး ၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန။

ကုန်သွယ်မှု မူဝါဒ ကောင်စီ

## ဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များအမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | ထရီပယ်လ်"အေ"စီးမန့်တ် အင်တာ နေရှင်နယ် ကုမ္ပဏီ လီမိတက် (Triple "A" Cement International Co., Ltd.) | ၁။ ဦးရွှင်ချောက် (အုပ်ချုပ်မှုဒါရိုက်တာ) | အမှတ်-၃၉၆၊ ၈၁ လမ်း ၊ ၃၀ နှင့် ၃၁ လမ်းကြား၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးမြို့။ |
| | | ၂။ ဦးကျော်အေး (ဒါရိုက်တာ) | အမှတ်- ၁၉၊ ရတနာမွန် (၃)လမ်းနှင့် အေးရိပ်မွန် (၃)လမ်းထောင့်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၃။ ဦးလျော်မြင့်ချင် (ခ) ဦးအောင်သိန်း (ဒါရိုက်တာ) | အမှတ်- ၉၊ သီရိမင်္ဂလာလမ်း၊ ကမာရွတ် မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၄။ ဦးအိုက်စွန်း (ဒါရိုက်တာ) | အမှတ်- ဟ/ ၁၃၉၊ ဗဟိုလမ်း၊ ဟိုမုံး ရပ်ကွက်၊ မူဆယ်မြို့နယ်၊ ရှမ်းပြည်နယ်။ |
| | | ၅။ ဦးစိုင်းကျော် (ဒါရိုက်တာ) | အမှတ်- ၉၁၊ ၆၂ လမ်း၊ ချမ်းအေးသာစံ မြို့နယ်၊ မန္တလေးမြို့။ |
| | | ၆။ ဒေါ်ဟောင်ရန်ဇင်း (ဒါရိုက်တာ) | အမှတ် - ၁၈၂/ ၁၈၃၊ ရတနာလမ်း၊ မြို့လယ် ရပ်ကွက်၊ သီပေါ မြို့နယ်၊ ရှမ်းပြည်နယ်။ |
| | | ၇။ ဒေါ်နန်းလီလီလှိုင် (ဒါရိုက်တာ) | အမှတ်- ၅၃၊ ၃၆ လမ်း၊ ၇၄ လမ်းနှင့် ၇၅ လမ်းကြား၊ မဟာအောင်မြေမြို့နယ်၊ မန္တလေးမြို့။ |

| | | | |
|---|---|---|---|
| ၁။ | ကုမ္ပဏီတယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - | ၀၁-၅၂၄၃၂၄ ၊ ၀၁-၅၂၄၁၂၉ ၊ ၀၂-၆၀၂၆၆၊ ၀၂-၆၀၂၈၈ |
| ၂။ | ကုမ္ပဏီ၏လိပ်စာအပြည့်အစုံ | - | အမှတ်-၃၉၆၊ ၈၁ လမ်း၊ ၃၀-၃၁ လမ်းကြား၊ မန္တလေးမြို့။ |
| ၃။ | ကုမ္ပဏီ၏ဆက်သွယ်ရမည့် ပုဂ္ဂိုလ် အမည်၊ ရာထူး | - | ဦးရွှင်ချောက် (အုပ်ချုပ်မှုဒါရိုက်တာ) |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - | ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့်နေ့စွဲ | - | ၆၉၅/၁၉၉၈-၁၉၉၉ (၂၄-၉-၁၉၉၈) |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့် နေ့စွဲ | - | (၇-၁-၂၀၁၀) |
| ၇။ | ဘဏ်အမည် နှင့် ဘဏ်စာရင်းအမှတ် | - | ကမ္ဘောဇဘဏ် လီမိတက် 0211130001344 |

လျှို့ဝှက်

နောက်ဆက်တွဲ(က)





ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ်(၂)လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
ဝန်ကြီးရုံး
နေပြည်တော်



စာအမှတ်၊ ၅ / MIC-(၃၃) / ၂၀၀၉)
ရက်စွဲ၊ ၂၀၀၉ခုနှစ်၊စက်တင်ဘာလ( ၅ )ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ ။ သဘောထားမှတ်ချက် ပြန်ကြားခြင်း

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၅-၈-၂၀၀၉)ရက်စွဲပါစာအမှတ်ရက-၆(က )/ မ-၁၀၃၃/၂၀၀၉(၁၂၄၇၈)

၁။ ထရီပယ်လ် "အေ" စီမန့်အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်မှ မန္တလေးတိုင်း ကျောက်ဆည်မြို့နယ် သံရွာ၊ တောင်တော်ကွင်း၊ ကွင်းအမှတ်(၂၅၂-ခ)နှင့် (၂၅၂-ခ)(ကွင်းပြင်)ရှိ မြေဧရိယာ(၅၀)ဧကတွင် စက်ရုံတည်ဆောက်ပြီး ၊ ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် လျှပ်စစ်ဓာတ်အားတစ်နှစ်လျှင် (၁၂၀၀၀)ကီလိုဝပ် လိုအပ်ပါသဖြင့် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းစာဖြင့် မေတ္တာရပ်ခံ ညှိနှိုင်းလာပါသည်။

၂။ ဓာတ်အားတောင်းခံလာသည့်နေရာသို့ ဓာတ်အားဖြန့်ဖြူးပေးရမည့် ကျောက်ဆည်မြို့နယ် ဘိလင်းပင်မ ဓာတ်အားခွဲရုံတွင် တပ်ဆင်ထားသည့် ၂၃၀/ ၃၃/ ၁၁ ကေဗွီ (၄၅)အမ်ဗွီအေ ထရန်စဖော်မာမှာ ဝန်အားပြည့်နေပြီဖြစ်သည့်အပြင်၊ ဓာတ်အားစနစ်အတွင်း ဓာတ်အားမလုံလောက်မှုကြောင့် တစ်နိုင်ငံလုံး ဓာတ်အားသုံးစွဲရန် လိုအပ်ချက်ပမာဏ ပြည့်မီမှုမရှိခြင်း၊ ယခုလက်ရှိ အခြေအနေမှာ(၂၄)နာရီ အပြည့်အဝ ဓာတ်အားပေးနိုင်မှု အခြေအနေမရှိခြင်း စသည်တို့ကြောင့် ယခုတောင်းခံထားသော လျှပ်စစ်ဓာတ်အား တစ်နှစ်လျှင် (၁၂၀၀၀)ကီလိုဝပ်ကို ခွင့်ပြုပေးနိုင်ခြင်း မရှိသေးပါကြောင်း သဘောထားမှတ်ချက်အား ပြန်ကြားအပ်ပါသည်။

ဝန်ကြီး( ကိုယ်စား )
(ခင်မောင်ဇော်၊ ညွှန်ကြားရေးမှူးချုပ်)

လျှို့ဝှက်

နောက်ဆက်တွဲ(ခ)

၇




ထရီပယ်လ်''အေ'' စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်

三 "A" 水泥 國際貿易有限公司

TRIPLE "A" CEMENT INTERNATIONAL COMPANY LIMITED

M.151
२४।10




သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

ရက်စွဲ။ ၂၇ - ၁၀ -၂၀၀၉။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်(၂)စောင်အားပြန်လည်အပ်နှံခွင့်ပြုပါရန်တင်ပြခြင်း။

အထက်ပါကိစ္စနှင့်ပတ်သက်၍ ကျွန်တော်များကုမ္ပဏီပိုင် အသေးလုံးဘိလပ်မြေစက်ရုံမှာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်အမှတ်–မနသ–၀၂၇/၉၆(၂၈.၆.၉၆)နှင့် မနသ–၃၈၇/၂၀၀၀ (၁၆.၅.၂၀၀၀) (၂)စောင်ဖြင့် မန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ်၊ ကျွဲနဖားတောင်ကွင်း၊ ကျောက်ချောကျေးရွာတွင် ဘိလပ်မြေထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းများကို ဆောင်ရွက်လျှက်ရှိပါသည်။

ယခုအခါ နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၏စီမံကိန်းအရ စက်ရုံအားကျောက်ဆည်ခရိုင်၊ ကျောက်ဆည်မြို့နယ်၊ တောင်တော်ကျေးရွာအုပ်စုသို့ ရွှေ့ပြောင်းတည်ဆောက်ရန်ညွှန်ကြားခဲ့ပါသည်။

သို့ဖြစ်ပါ၍ ယခင်ခွင့်ပြုထားသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်(၂)စောင်အားပြန်လည်အပ်နှံခွင့်ပြုပါရန် ရိုသေလေးစားစွာဖြင့် လျှောက်ထားအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

*U Shwin Chouk*
*13/Tha Pa Na (N) 023361*
*Managing Director*
*Triple "A" Cement Int'l Co., Ltd.*



No.(396), 81st Street, Between 30th & 31st Street, Mandalay, MYANMAR. ☎ 02-60288





လျှို့ဝှက်

၈

ပုံစံ(... -၂)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၁၇၇/၂၀၀၀ ၂၀၀၀ပြည့်နှစ်၊ မေ လ ၁၆ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးရွှင်ချောက်

(ခ) အဘအမည် ဦးလောပေါင်း

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၃/သပန(နိုင်)၀၂၃၃၆၁

(ဃ) နေရပ်လိပ်စာ အမှတ်(၃၅၈)၊ ၃၃-၃၄လမ်း နှင့် ၈၅-၈၆လမ်း ကြား၊ မလွန်နီးပါးတန်းလမ်း၊ ချမ်းအေးသာစံမြို့နယ်၊ မန္တလေးတိုင်း

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း ထရီပယ်လ် အေစီးမန့်(တ်) အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက် (Triple 'A' Cement International Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ဘိလပ်မြေထုတ်လုပ်ခြင်း (တိုးချဲ့) စီမံကိန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ဦးပိုင်အမှတ် (N ၃/၂၊ N ၅၂၊ ၀A)၊ ကွင်းအမှတ် (၅၆၂/ခ)၊ ရွှေစာရံကျေးရွာအုပ်စု၊ ကျဲနဖားကောင်၊ ပုသိမ်ကြီးမြို့နယ်၊ မန္တလေးတိုင်း

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၂၂၅.၀၀ သန်း၊ (ကျပ်နှစ်ရာနှစ်ဆယ့်ငါးသန်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

လျှို့ဝှက်

၉

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ပုံစံ(မှတ်ပုံ-၂) ၁၃၇၄(၄)
နေ့စွဲ ၂၈-၆-၉၆
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၀၂၇/၉၆ ၁၉၉၆ ခုနှစ်၊ ဇွန် လ ၂၈ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးရွှင်ချောက်

(ခ) အဘအမည် ဦးလောပေါင်း

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် NKM-၀၇၅၀၉၉

(ဃ) နေရပ်လိပ်စာ အမှတ်(၃၅၇)၊ ၃၃-၃၄လမ်းနှင့် ၇၅-၇၆လမ်းကြား၊ မလွန်နီးပါးတန်းလမ်း၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးမြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း

~~ထရီပယ်လ် " အေ " အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်~~

ထရီပယ်လ် " အေ " စီးမန့်(တ်) အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား အသုံးလုံးအမှတ်တံဆိပ်၊ ဘီလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်း

၅-၂-၉၉နေ့တွင် ကျင်းပသောကော်မရှင်၏(၃/၉၉)ကြိမ်မြောက် ကြိုတင်ညှိနှိုင်းအစည်းအဝေးဆုံးဖြတ်ချက်အရပြင်ဆင်သည်။

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ဦးပိုင်အမှတ်(N-၃/၂နှင့် N၅၂၊OA) ကွင်းအမှတ်(၅၆၂-ခ)ကွဲ့နဖားတောင်ကွင်း၊ ရွှေစါရံကျေးရွာအုပ်စု၊ ပုသိမ်ကြီးမြို့နယ်၊ မန္တလေးတိုင်း ။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၄၃.၉၆သန်း (ကျပ်လေးဆယ့်သုံးသန်း ကိုးသိန်းခြောက်သောင်း တိတိ)

(စိုးဝင်း)
ညွှန်ကြားရေးမှူး
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

M-1315
29/1/9

ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ စက်တင်ဘာလ ၂၉ ရက်၊

အကြောင်းအရာ။ ။ ထရီပယ်လ် "အေ"စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက် မှ စက်ပစ္စည်း ဈေးနှုန်းများအား ပြင်ဆင်ခွင့် ပြုပါရန် အသနားခံ တင်ပြလျှောက်ထားခြင်းကိစ္စ။

၁။ ထရီပယ်လ်"အေ"စီးမန့်တ်အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်မှ ဘိလပ်မြေစက်ရုံအား နိုင်ငံတော်အစီအစဉ်ဖြင့် ပြောင်းရွှေ့ တည်ဆောက်ရေးတွင် အစားထိုး ရင်းနှီးမြှုပ်နှံမှုအဖြစ် ဆောက်လုပ်ရေးနှင့် လုပ်ငန်းသုံး စက်ပစ္စည်းများ ပြည်ပမှ ဝယ်ယူတင်သွင်းခွင့် ပြုပါရန် အမှတ်(၁) စက်မှုဝန်ကြီးဌာနမှ ထောက်ခံတင်ပြခြင်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၄/၂၀၀၉)(၂၉-၄-၂၀၀၉)အစည်းအဝေး၌တင်ပြခဲ့ရာ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည် - အလံ "၁"

(က)ထရီပယ်လ်"အေ"စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်၏ အစားထိုး ရင်းနှီးမြှုပ်နှံမှု အဖြစ် ဆောက်လုပ်ရေးနှင့် လုပ်ငန်းသုံး စက်ပစ္စည်းအမယ် (၅၇)မျိုး၊ တန်ဘိုး US$ (၄၃.၆၀) သိန်း အား ပို့ကုန်ရငွေဖြင့် အရစ်ကျ ဝယ်ယူတင်သွင်းခွင့်ပြုရန် သက်ဆိုင်ရာဌာနမှ ထောက်ခံသဖြင့် ကော်မရှင်အနေဖြင့် သဘောတူသည်။

(ခ) ပြည်ပမှ တင်သွင်းမည့် စက်၊ ယာဉ်၊ ယန္တရားများနှင့် ဆောက်လုပ်ရေး လုပ်ငန်းသုံး ပစ္စည်းများ၏ Specification/ Brand/ Model/ Size နှင့် Machine Sparepart အသေးစိတ်စာရင်းတို့ကို ပြည့်စုံစွာ ထည့်သွင်းဖော်ပြ လျှက် နိုင်ငံခြား မတည်ငွေရင်းတန်ဘိုး သတ်မှတ်ရေးအဖွဲ့၊ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနနှင့် ဘဏ္ဍာရေးနှင့်အခွန် ဝန်ကြီးဌာနတို့၏ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆက်လက်ဆောင်ရွက်ရန်။

(ဂ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ခွင့်ပြုမိန့် ရရှိရန် လျှောက်ထားမည့် လုပ်ငန်းအဆိုပြုလွှာ Proposal ပါ တင်သွင်းမည့် စက်ပစ္စည်းစာရင်းနှင့် ယခုတင်ပြသည့် စက်ပစ္စည်းအရေအတွက်နှင့် တန်ဘိုးများ ကိုက်ညီမှု ရှိစေရန်နှင့် မှတ်တမ်းတင်ထားရှိရန်။

(ဃ)အခွန်အကောက်ကင်းလွတ်ခွင့် ပေးရန်ကိစ္စအား ကော်မရှင်ခွင့်ပြုမိန့် ရရှိပြီးမှ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခွင့်ပြုရန်။

၂။ အထက်ပါ ဆုံးဖြတ်ချက်များအား သက်ဆိုင်ရာဌာနများသို့ အကြောင်းကြားခဲ့ပါသည်။ ကုမ္ပဏီမှ တင်သွင်းမည့် အဆိုပါ စက်၊ ယာဉ်၊ ယန္တရားများ စာရင်းတွင် Dump Truck တစ်စီးလျှင် US$ (၀.၁၃) သိန်း နှုန်းဖြင့် (၁၀)စီး တင်သွင်းရန် ဖော်ပြခဲ့ပါသည်။ အလံ "၂"

၃။ ယခုအခါ ကုမ္ပဏီမှ ကုန်သွယ်ရေးညွှန်ကြားမှု ဦးစီးဌာနသို့ သွင်းကုန်လိုင်စင် လျှောက်ထားခဲ့ရာ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန၏သတ်မှတ်ဈေးနှုန်းအရ Dump Truck တစ်စီးလျှင် US$ (၀.၅၂) သိန်း နှုန်းဖြင့် ပြင်ဆင်ခဲ့ရပါသဖြင့် ဈေးနှုန်းများ ညှိနှိုင်းပြင်ဆင်ခွင့် ပြုပါရန် ကုမ္ပဏီမှ တင်ပြလာခြင်း ဖြစ်ပါသည်။ အလံ "၃"

၄။ အဆိုပါ Dump Truck များ ရန်ကုန်ဆိပ်ကမ်းသို့ ရောက်ရှိ၍ အကောက်ခွန်ဆိုင်ရာ ရှင်းလင်းခြင်း၊ အခွန်ဆောင်ခြင်းများ ပြုလုပ်ရာတွင် ကော်မရှင်၏ ထောက်ခံချက်များတွင် ပါရှိသည့် ဈေးနှုန်းနှင့် သွင်းကုန်လိုင်စင်တွင် ပါရှိသည့် ဈေးနှုန်းများ ကိုက်ညီမှု မရှိဘဲ ဈေးနှုန်း ကွာဟမှုကြောင့် အခက်အခဲများစွာ ဖြစ်ပေါ်နိုင်ပါသဖြင့် ထောက်ခံချက်တွင်ပါရှိသည့် ဈေးနှုန်း နှင့် စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပမာဏအား ညှိနှိုင်းပြင်ဆင်ပေးနိုင်ပါရန် ဖော်ပြထားပါသည်။ ဈေးနှုန်း ပြောင်းလဲထားသည့် သွင်းကုန်လိုင်စင် (မိတ္တူ)နှင့် Invoice တို့အား ပူးတွဲ တင်ပြထား ပါသည်။ အလံ "၄"

၅။ <u>စိစစ်တင်ပြချက်</u>

(က) ထရီပယ်လ်"အေ"စီးမန့်တ် အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်မှ လုပ်ငန်းသုံး ပစ္စည်းများ ကြိုတင် တင်သွင်းခွင့် တင်ပြချက်ကို ကုမ္ပဏီမှတင်ပြသည့် Dump Truck တစ်စီးလျှင် US$ (၀.၁၃) သိန်း နှုန်းဖြင့် ကော်မရှင်၏ (၁၄/ ၂၀၀၉) အစည်းအဝေးများမှ ခွင့်ပြုချက်အရ ကော်မရှင်မှ သက်ဆိုင်ရာ ဌာနများသို့ အကြောင်းကြားခဲ့ပါသည်။

(ခ) ယခုအခါ အဆိုပါ Dump Truck ၏ ဈေးနှုန်းကို တစ်စီးလျှင် US$ (၀.၅၂) သိန်းနှုန်းဖြင့် သွင်းကုန်လိုင်စင် ပြင်ဆင်ခဲ့ပါကြောင်း ကုမ္ပဏီမှ တင်ပြလာသည့် အတွက် မူလ အကြောင်းကြားခဲ့သည့် ဌာနများသို့ ဆက်လက် အကြောင်းကြား ခွင့် အတွက် လမ်းညွှန်မှု ခံယူအပ်ပါသည်။

(ဂ) ပြင်ဆင်ခဲ့သည့် Dump Truck ၏ ဈေးနှုန်းများကို ကော်မရှင်သို့ တင်ပြထား သည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအဆိုပြုလွှာတွင် ပြင်ဆင်စေပါမည်။

(ဃ) ထရီပယ်လ်"အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်မှ အမှတ်(၁) စက်မှု ဝန်ကြီးဌာန၏ ထောက်ခံချက်ဖြင့် တင်ပြလာသည့် ကျောက်ဆည်မြို့၊ ဘီလပ်မြေ စက်ရုံ အတွက် အဆိုပြုလွှာကို ကော်မရှင်၏ (၃၂/ ၂၀၀၉) ( ၁ - ၉ - ၂၀၀၉ ) အစည်းအဝေးတွင် တင်ပြခဲ့ပါသည်။ ယင်း အစည်းအဝေး ဆုံးဖြတ်ချက်အရ မူလကော်မရှင်ခွင့်ပြုမိန့် (၂)ခုကို ပြန်လည်အပ်နှံပြီး အမှတ် (၂)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနမှ သဘောထား ပြန်ကြားချက်ရရှိပါက ရင်းနှီး မြှုပ်နှံမှုအဆိုပြုလွှာကို ကုန်သွယ်မှုမူဝါဒကောင်စီသို့ ဆက်လက် တင်ပြပါမည်။

၆။ ဈေးနှုန်းပြင်ဆင်ခြင်းအတွက် ဌာနများသို့ ဆက်လက် အကြောင်းကြားခွင့်ပြုပါရန် စာကြမ်း နှင့်အတူ လမ်းညွှန်မှု ခံယူအပ်ပါသည်။ (ပူးတွဲ)

(ဗိုလ်မှူးကြီး သူရိန်ဇော်)
အတွင်းရေးမှူး

ဥက္ကဋ္ဌ



ထရီပယ်လ်''အေ'' စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်

三 "A" 水泥 國際貿易有限公司

**TRIPLE "A" CEMENT INTERNATIONAL COMPANY LIMITED**



သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

ရက်စွဲ။ ၁၃ - ၁၀ -၂၀၀၉။

အကြောင်းအရာ။ ။ ရင်းနှီးမြှုပ်နှံမှုပစ္စည်းများအကြိုတင်သွင်းခွင့်ပြုပါရန်အသနားခံတင်ပြလျှောက်ထားခြင်း။

၁။ ကျွန်တော်များကုမ္ပဏီပိုင် အသေးလုံးဘိလပ်မြေစက်ရုံမှာ နိုင်ငံတော်စီမံကိန်းအရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ကူညီပံ့ပိုးလမ်းညွှန်မှုများခံယူလျှက် မန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ်၊ ကျဲနဖားကျေးရွာမှ ကျောက်ဆည်မြို့နယ်၊ တောင်တော်ဒေသသို့ ပြောင်းရွှေ့တည်ဆောက်လျှက်ရှိပါသည်။

၂။ အဆိုပါပြောင်းရွှေ့ရေးလုပ်ငန်းနှင့် ဘိလပ်မြေစက်ရုံတည်ဆောက်ရေး လုပ်ငန်းများတွင် အသုံးပြုရန် စက်ပစ္စည်းများနှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများအား ရင်းနှီးမြှုပ်နှံမှုပစ္စည်းများအဖြစ် ပထမအကြိမ် **US$ 4364429.70** နှင့် ဒုတိယအကြိမ် **US$ 7566801.00** စုစုပေါင်း: **US$ 5121104.70** အား ပြည်ပမှမှာယူတင်သွင်းနိုင်ရန် လူကြီးမင်း၏ကော်မရှင်မှ ခွင့်ပြုပေးခဲ့ပြီးဖြစ်ပါသည်။ ?

၃။ ကျွန်တော်များကုမ္ပဏီအနေဖြင့် လူကြီးမင်း၏ကော်မရှင်သို့ ဘိလပ်မြေစက်ရုံပြောင်းရွှေ့မှုလုပ်ငန်းအကြိုအစီရင်ခံစာ**(Proposal)** တင်ပြထားပြီးဖြစ်သော်လည်း အတည်ပြုချက်မရရှိသေးပါ။ ထိုသို့လုပ်ငန်းအကြိုအစီရင်ခံစာ**(Proposal)** အတည်ပြုချက်မရမှီကာလတွင် ဘိလပ်မြေစက်ရုံတည်ဆောက်ရေးလုပ်ငန်းများကို အချိန်အဟုန်ဖြင့် သတ်မှတ်ကာလအတွင်း ပြီးစီးစွာဆောင်ရွက်နိုင်ရန်အတွက် လိုအပ်သောစက်ပစ္စည်းများနှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများအား တတိယအကြိမ်အဖြစ် ကြိုတင်တင်သွင်းခွင့်ပြုပါရန် အသနားခံတင်ပြလျှောက်ထားအပ်ပါသည်။





ထရိပယ်လ်''အေ'' စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်

三 "A" 水泥 國際貿易有限公司

**TRIPLE "A" CEMENT INTERNATIONAL COMPANY LIMITED**


၄။ ကျွန်တော်များကုမ္ပဏီမှ လျှောက်ထားသော တတိယအကြိမ်ကြိုတင် တင်သွင်းခွင့်ပါ စက်ပစ္စည်းများနှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများမှာ စက်ရုံပြောင်းရွှေ့တည်ဆောက်ရေး လုပ်ငန်းများတွင် အရေးတကြီးလိုအပ်လျှက်ရှိသော ပစ္စည်းများဖြစ်ခြင်းကြောင့် ကော်မရှင်အဖွဲ့မှ သနားငဲ့ညှာထောက်ထားသော သဘောထားဖြင့် စဉ်းစားပေးပါရန် ရိုသေလေးစားစွာဖြင့် လျှောက်ထားအပ်ပါသည်။

ပူးတွဲလျှက်

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏စာအမှတ်–
ရက–ရ(ခ)/မ–၄၁၂/၂၀၀၉(၅၉၁၂–ခ) (၂၆.၀၅.၂၀၀၉)မိတ္တူ။
၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏စာအမှတ်–
ရက–၁/မ–၅၁၉ /၂၀၀၉(၁၁၈၈၅–ဓ) (၂၄.၀၇.၂၀၀၉)မိတ္တူ။
၃။ တတိယအကြိမ်တင်သွင်းရန်လျှောက်ထားသောစက်ပစ္စည်းစာရင်းမူရင်း။

ရိုသေလေးစားစွာဖြင့်

*U Shwin Chauk*
*13/ Tha Pa Na (N)023361*
*Managing Director*
*Triple 'A' Cement Int'l Co., Ltd.*


No.(396), 81st Street, Between 30th & 31st Street, Mandalay, MYANMAR. ☎ 02-60288




ထရိပယ်လ်"အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်

三 "A" 水泥 國際貿易有限公司

**TRIPLE "A" CEMENT INTERNATIONAL COMPANY LIMITED**


| No | Commondity | Unit |
|---|---|---|
| 1 | Electric Grab-bucket Crane | 1 Set |
| 2 | Iron Rail | 18 MT |
| 3 | Stainless Steel Bolt & Nut | 18 MT |
| 4 | Stainless Steel Rod | 5 MT |
| 5 | Iron Chain | 260 MT |
| 6 | U - Shackle | 9 MT |
| 7 | Liner | 335 MT |
| 8 | Oxygen Cylinder | 100 Nos |
| 9 | Air Compressor | 3 Set |
| 10 | Box Truck ( 6 ~ 10 Tons) | 5 Unit |
| 11 | Telephone Wire | 1 MT |
| 12 | Truck-Mounted Crane (SQ 5SK 2Q) (Brand -XCMG) (Capacity - 5000 Kg) | 1 SET |
| 13 | Steel Ball , Steel Bar | 250 MT |
| 14 | Electric Cable Wire | 69 MT |
| 15 | Power Transformer 5000 KVA | 1 Nos |
| 16 | Wheel Loader | 2 Nos |
| 17 | Iron Pipe | 120 MT |
| 18 | Slurry Pump | 4 Nos |
| 19 | Filter Bag | 2860 Nos |
| 20 | Welding Electrode | 60 MT |
| 21 | Chain Hanging Plate | 3.5 MT |
| | | |
| | | |


No.(396), 81st Street, Between 30th & 31st Street, Mandalay, MYANMAR. ☎ 02-60288

1

# ပြည်ထောင်စုမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊ နေပြည်တော်

FAX: 95-67-406333 တယ်လီဖုန်း-၀၆၇-၄၀၆၃၃၄၊ ၄၀၆၀၇၅။

စာအမှတ်၊ ရက-၆(က)/မ-၁၀၃၃/ ၂၀၀၉(၁၄၄၃၆)၊
ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ စက်တင်ဘာလ ၁၁ ရက်။

အကြောင်းအရာ။ ။ ထရီပယ်လ် "အေ"စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက် (Triple "A" Cement Int'l Co., Ltd.)မှ မန္တလေးတိုင်း၊ ကျောက်ဆည်ခရိုင်၊ ကျောက်ဆည်မြို့နယ် တွင် ဘိလပ်မြေထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်းကိစ္စ။

ရည် ညွှန်း ချက် ။ ။ အမှတ်(၁) စက်မှုဝန်ကြီးဌာန ၏ (၁၇-၇-၂၀၀၉) ရက်စွဲပါ စာအမှတ်၊ ၈/၁ စ(၁)/၂၀၀၉ (၆၄၂၆)။

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ အမှတ်(၁)စက်မှုဝန်ကြီးဌာနမှ ရည်ညွှန်းချက်ပါစာဖြင့် ထောက်ခံ တင်ပြခြင်းအား (၁-၉-၂၀၀၉) နေ့ တွင် ကျင်းပသော ဤကော်မရှင်၏ (၃၂/ ၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ ထရီပယ်လ်"အေ"စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက် (Triple"A" Cement Int'l Co., Ltd.)မှ မန္တလေးတိုင်း၊ ကျောက်ဆည်ခရိုင်၊ ကျောက်ဆည်မြို့နယ်၊ တွင် ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည် -

(က) ပုသိမ်ကြီးမြို့နယ်တွင် မူလခွင့်ပြုခဲ့သည့် ကော်မရှင်ခွင့်ပြုမိန့် (၂)ခုအား ကုမ္ပဏီမှ ပြန်လည်အပ်နှံရန်၊

(ခ) ကျောက်ဆည်ဘိလပ်မြေစက်ရုံများတွင် လျှပ်စစ်ရရှိရေးအတွက်ညှိနှိုင်းဆောင်ရွက်ရန်နှင့်

(ဂ) ကုန်သွယ်မှုမူဝါဒကောင်စီသို့ တင်ပြရန်။

၃။ အထက်ပါအစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီဆောင်ရွက်ပြီး ကုန်သွယ်မှုမူဝါဒကောင်စီသို့ ဆက်လက် တင်ပြနိုင်ရန်အတွက် အဆိုပြုလွှာ (၂၇)စုံကို Adobe Acrobat Reader (Pdf) File ဖြင့် ထည့်သွင်းထားသော CD Copy နှင့်အတူ ဤကော်မရှင်သို့ ပေးပို့ပါရန် အကြောင်းကြားပါသည်။

(signature)

ဥက္ကဋ္ဌ (ကိုယ်စား)
(ဗိုလ်မှူးကြီး သူရိန်ဇော်၊ အတွင်းရေးမှူး)

အုပ်ချုပ်မှု ဒါရိုက်တာ
ထရီပယ် "အေ" စီးမန့်အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်။

Triple 'A' C 1

မိတ္တူ - (၁) ဝန်ကြီးရုံး၊
အမှတ်(၁)စက်မှု ဝန်ကြီးဌာန။
(၂) ဦးဆောင်ညွှန်ကြားရေးမှူး၊
မြန်မာ့ကြွေထည်မြေထည်လုပ်ငန်း။
(၃) ရုံးလက်ခံ/ မျှောစာတွဲ။

| App

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊ နေပြည်တော်

FAX: 95-67-406333

တယ်လီဖုန်း-၀၆၇-၄၀၆၃၃၄၊ ၄၀၆၀၇၅။

စာအမှတ်၊ ရက-၆(က)/မ-၁၀၃၃/ ၂၀၀၉(၂၀၉၆၂)၊
ရက်စွဲ ၊ ၂၀၀၉ ခုနှစ် ၊ နိုဝင်ဘာလ ၃၀ ရက်။

သို့/

ဥက္ကဋ္ဌ၊ ပို့ကုန်သွင်းကုန်လုပ်ငန်းများ မှန်ကန်ရေးကြီးကြပ်မှုအဖွဲ့။
ဝန်ကြီးရုံး၊ အမှတ်(၁) စက်မှုဝန်ကြီးဌာန။
ဝန်ကြီးရုံး၊ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန။

အကြောင်းအရာ။ ။ ထရီပယ်လ် "အေ"စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက် မှ စက်ပစ္စည်းနှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများအား တတိယ အကြိမ် ကြိုတင်တင်သွင်းခွင့် ပြုပါရန် အသနားခံတင်ပြ လျှောက်ထားခြင်းကိစ္စ။

ရည် ညွှန်း ချက် ။ ။ (၁) အမှတ်(၁)စက်မှုဝန်ကြီးဌာန၏ (၂၈-၁၀-၂၀၀၉) ရက်စွဲပါ စာအမှတ်၊ ၉ (၂)/၁ စ(၁)/၂၀၀၉ (၉၇၃၅)။

(၂) ထရီပယ်လ်"အေ"စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်၏ (၂၉-၁၀-၂၀၀၉) ရက်စွဲပါ တင်ပြစာ။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ အမှတ်(၁)စက်မှုဝန်ကြီးဌာနမှ ရည်ညွှန်းချက်(၁)ပါစာဖြင့် ထောက်ခံတင်ပြခြင်းကို (၂၀-၁၁-၂၀၀၉) နေ့တွင် ကျင်းပသော ဤကော်မရှင်၏ (၄၁/ ၂၀၀၉)အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည် -

(က) အမှတ်(၁) စက်မှု ဝန်ကြီးဌာန၏ ထောက်ခံချက်ဖြင့် ထရီပယ်လ်"အေ"စီးမန့်တ် အင်တာ နေရှင်နယ်ကုမ္ပဏီ လီမိတက်မှ စက်ပစ္စည်းနှင့် ဆောက်လုပ်ရေးလုပ်ငန်း သုံး ပစ္စည်းများ စုစုပေါင်း (၄၁)မျိုး (တန်ဘိုး အမေရိကန်ဒေါ်လာ ၁.၅၃ သန်း) အား တတိယအကြိမ် ကြိုတင် တင်သွင်းခွင့် တင်ပြခြင်းကို ကော်မရှင်မှ သဘောတူကြသည်။

(ခ) တင်သွင်းမည့် ပစ္စည်းများ၏ Model, Specification နှင့် ဈေးနှုန်းတို့ကို EISC နှင့် စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနတို့၏ လုပ်ငန်းလမ်းညွှန်ချက် နှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(ဂ) အမှန်တကယ် တင်သွင်းပြီးသော စက်ပစ္စည်း အရေအတွက်နှင့် တန်ဘိုးတို့ကို ကော်မရှင်သို့ ပြန်လည် သတင်းပို့ရန်၊

(ဃ) ကြိုတင် တင်သွင်းခွင့် ရရှိထားသည့် ပစ္စည်းများအားလုံး တင်သွင်းပြီးပါက ရင်းနှီးမြှုပ်နှံမှု အဆိုပြုလွှာတွင် ပြင်ဆင်ရန်၊

(င) တင်သွင်းပြီး ပစ္စည်းများ အတွက် ကော်မရှင်မှ မှတ်တမ်းတင် ထားရှိပြီး အခွန်အကောက် ကင်းလွတ်ခွင့် ပေးရန် ကိစ္စကို ကော်မရှင်ခွင့်ပြုမိန့် (MIC Permit) ရရှိပြီးမှ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုရန်၊

၃။ အထက်ပါ အစည်းအဝေး ဆုံးဖြတ်ချက်ကို သိရှိနိုင်ပါရန်နှင့် လိုအပ်သကဲ့သို့ ဆက်လက်ဆောင်ရွက်နိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(ဗိုလ်မှူးကြီး သူရိန်ဇော်၊ အတွင်းရေးမှူး)

မိတ္တူ -

(၁) ဝန်ကြီးရုံး၊
ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။

(၂) နိုင်ငံခြားမတည်ငွေရင်းတန်ဘိုးသတ်မှတ်ရေးအဖွဲ့၊
(ပို့ဆောင်ရေး ဝန်ကြီးဌာန။)

(၃) ဦးဆောင်ညွှန်ကြားရေးမှူး၊
မြန်မာ့ကြွေထည်မြေထည်လုပ်ငန်း။

(၄) ညွှန်ကြားရေးမှူးချုပ်၊
ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန။

(၅) ညွှန်ကြားရေးမှူးချုပ်၊
နယ်စပ်ကုန်သွယ်ရေး ဦးစီးဌာန။

(၆) ညွှန်ကြားရေးမှူးချုပ်၊
အကောက်ခွန်ဦးစီးဌာန။

(၇) ညွှန်ကြားရေးမှူးချုပ်၊
ပြည်တွင်းအခွန်များ ဦးစီးဌာန။

(၈) ထရီပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်။

(၉) ရုံးလက်ခံ/ မျှောစာတွဲ။

App·

ပြည်ထောင်စုမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊ နေပြည်တော်

FAX: 95-67-406333

တယ်လီဖုန်း-၀၆၇-၄၀၆၃၃၄၊ ၄၀၆၀၇၅။

စာအမှတ်၊ ရက-၆(က)/မ-၁၀၃၃/ ၂၀၀၉(၂၀၈၉၀ )၊
ရက်စွဲ ၊ ၂၀၀၉ ခုနှစ် ၊ နိုဝင်ဘာ လ ၃၀ ရက်။

သို့/

ဝန်ကြီးရုံး
အမှတ်(၁) စက်မှုဝန်ကြီးဌာန

အကြောင်းအရာ။ ။ ထရီပယ်လ် "အေ"စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက် (Triple "A" Cement Int'l Co., Ltd.)မှ မန္တလေးတိုင်း၊ ကျောက်ဆည်ခရိုင်၊ ကျောက်ဆည်မြို့နယ် တွင် ဘိလပ်မြေထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်းကိစ္စ။

ရည် ညွှန်း ချက် ။ ။ (၁) အမှတ်(၁) စက်မှုဝန်ကြီးဌာန ၏ (၁၇-၇-၂၀၀၉) ရက်စွဲပါ စာအမှတ်၊ ၈/၁ စ(၁)/၂၀၀၉ (၆၄၂၆)။

(၂) ထရီပယ်လ်"အေ"စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်၏ (၁၀-၁၁-၂၀၀၉) ရက်စွဲပါ တင်ပြစာ။

၁။ အထက် အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ ရည်ညွှန်းချက်ပါစာများဖြင့် တင်ပြခြင်းကို (၁၈-၁၁-၂၀၀၉)နေ့တွင်ကျင်းပသော ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၄၀/ ၂၀၀၉)အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည် -

(က) ထရီပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက် မှ မန္တလေးတိုင်း၊ ပုသိမ်ကြီး မြို့နယ်၊ ကျွဲနဖားတောင်၊ ရွှေစာရံကျေးရွာအုပ်စု၊ ကွင်းအမှတ် (၅၆၂/ ခ)၊ ဦးပိုင်အမှတ် (N ၃/ ၂ ၊ N ၅၂ ၊ OA) တွင် ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် ရယူထားသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့် (၂)ခု [မနသ ၀၂၇/ ၉၆ (၂၈-၆-၁၉၉၆) နှင့် မနသ ၃၈၇/ ၂၀၀၀ (၁၆-၅-၂၀၀၀)] အား ကုမ္ပဏီမှ ပြန်လည်အပ်နှံရန်။

(ခ) ထရီပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက် မှ မန္တလေးတိုင်း၊ ကျောက်ဆည် မြို့နယ်၊ သံရွာ၊ တောင်တော်ကွင်း၊ ကွင်းအမှတ် ( ၂၅၂ - ခ ) နှင့် (၂၅၂-ခ ကွင်းပြင်) တွင် ဘိလပ်မြေထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန်။

၃။ အထက်ပါ ဆုံးဖြတ်ချက် အပိုဒ် ၂(က) အရ ဆောင်ရွက်ပြီး ဖြစ်ပါ၍ အပိုဒ် ၂(ခ) အရ ရင်းနှီးမြှုပ်နှံမှုအဆိုပြုလွှာကို အစိုးရအဖွဲ့ အစည်းအဝေးသို့ ဆက်လက်တင်ပြနိုင်ရန်အတွက် အဆိုပြုလွှာ (၁၅)စုံကို Adobe Acrobat Reader (Pdf) File ဖြင့် ထည့်သွင်းထားသော CD Copy နှင့်အတူ ဤကော်မရှင်သို့ ပေးပို့ပါရန် အကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(ဗိုလ်မှူးကြီး သူရိန်ဇော်၊ အတွင်းရေးမှူး)

မိတ္တူ -

(၁) ဦးဆောင်ညွှန်ကြားရေးမှူး၊
မြန်မာ့ကျွေထည်မြေထည်လုပ်ငန်း။

(၂) ထရီပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်။

(၃) ရုံးလက်ခံ/ မျှောစာတွဲ။

ကော်မရှင်၏ ၄၂/၂၀၀၉ အစည်းအဝေး

အကြောင်းအရာ။ ။ ထရီပယ်လ် "အေ" စီးမန့်တ် အင်တာ နေရှင်နယ် ကုမ္ပဏီ လီမိတက် ၏ ဘိလပ်မြေစက်ရုံပြောင်းရွှေ့တည်ဆောက်ရာတွင် ဝန်ထမ်းများ ကြို/ပို့ရန် မော်တော်ယာဉ်များ (Bus ၅ စီး)တင်သွင်းရေးအတွက် အမှတ်(၁) စက်မှုဝန်ကြီးဌာနမှ ထောက်ခံ တင်ပြလာခြင်းကိစ္စ။

၁။ ထရီပယ်လ် "အေ" စီးမန့်တ် အင်တာ နေရှင်နယ် ကုမ္ပဏီ လီမိတက်သည် နိုင်ငံတော် စီမံကိန်းအရ မန္တလေးတိုင်း၊ ကျွဲနဖားတောင်ကွင်းတွင် ရှိသော ကော်မရှင်ခွင့်ပြုမိန့်ရ အေသုံးလုံး ဘိလပ်မြေစက်ရုံအား ကျောက်ဆည်ခရိုင်၊ ကျောက်ဆည်မြို့နယ်သို့ ပြောင်းရွှေ့တည်ဆောက်လျှက် ရှိပါ သည်။

၂။ အဆိုပါ ဘိလပ်မြေစက်ရုံပြောင်းရွှေ့တည်ဆောက်ရေးသို့ ဝန်ထမ်းများသွားလာရေးတွင် အသုံးပြုရန် အောက်ပါ မော်တော်ယာဉ် (Bus ၅ စီး) အား ကြိုတင်တင်သွင်းခွင့်ပြုပါရန် အမှတ်(၁) စက်မှု ဝန်ကြီးဌာန၏ ထောက်ခံချက်ဖြင့် တင်ပြလာခြင်း ဖြစ်ပါသည်။

| စဉ် | အမျိုးအစား | ဈေးနှုန်း (US $) | အရေအတွက် (စီး) | တန်ဘိုး (US$) (CIF/Yangon) |
|---|---|---|---|---|
| ၁။ | Bus<br>(26 Seater & Up)<br>(Left Drive)<br>(2002 & Up Model) | ၃၂၀၀၀ | ၅ | ၁၆၀၀၀၀ |

၃။ ထရီပယ်လ် "အေ" စီးမန့်တ် အင်တာ နေရှင်နယ် ကုမ္ပဏီ လီမိတက်သည် AAA ဘိလပ်မြေ စက်ရုံ အား ကျောက်ဆည်မြို့နယ်သို့ ပြောင်းရွှေ့ တည်ဆောက်နေခြင်းမှာ မှန်ကန်ပါကြောင်း နှင့် ထိုသို့ ပြောင်းရွှေ့ တည်ဆောက်ရေး လုပ်ငန်းများတွင် သွားရောက် တာဝန်ထမ်းဆောင်သော အုပ်ချုပ်ရေး၊ စီမံခန့်ခွဲရေးနှင့် ကျွမ်းကျင်ဝန်ထမ်းများအား ကြို/ပို့ ပြုလုပ်ရန် အတွက် Bus (26 Seater & Up) (5 Units) အမှန်တကယ်လိုအပ်ပါကြောင်း စိစစ်တွေ့ရှိရ ပါသဖြင့် Bus (26 Seater & Up) (5 Units)အား ပြည်ပမှ တင်သွင်းရန်အတွက် ကန့်ကွက်ရန် မရှိပါကြောင်း အမှတ်(၁)စက်မှုဝန်ကြီးဌာနမှ ထောက်ခံ ထား ပါသည်။

၄။ စက်ရုံတည်ဆောက်ရေးလုပ်ငန်းများ (၈၀%)ခန့် ပြီးစီးသည့် အခြေအနေ ရှိပါကြောင်း ၊ Bus ( ၅ စီး)အား ရင်းနှီးမြှုပ်နှံမှု ပစ္စည်းများအဖြစ် ပြည်ပမှ တင်သွင်းခွင့်ပြုပါရန်တင်ပြထား ပါသည်။ Sale Contract နှင့် Proforma Invoice တို့ကို ပူးတွဲတင်ပြထားပါသည်။

၅။ အသုံးလုံးဘီလပ်မြေစက်ရုံသစ်(ကျောက်ဆည်) အဆိုပြုချက်အား ကုန်သွယ်မှုမူဝါဒ ကောင်စီအစည်းအဝေးမှ မူအားဖြင့်သဘောတူပြီး ဖြစ်ပါသည်။Model နှင့်ပတ်သက်၍ စီးပွားရေး နှင့်ကူးသန်း ရောင်းဝယ်ရေး ဝန်ကြီးဌာနမှ သတ်မှတ်ချက် အတိုင်း လိုက်နာမည် ဖြစ်ကြောင်း သိရှိရပါသည်။

၆။ သို့ဖြစ်ပါ၍ ထရီပယ်လ် "အေ" စီးမန့်တ် အင်တာ နေရှင်နယ် ကုမ္ပဏီ လီမိတက် မှ Bus (၅ စီး) အား ရင်းနှီးမြှုပ်နှံမှု ပစ္စည်းအဖြစ် တင်သွင်းခွင့်ပြုပါရန် အမှတ်(၁) စက်မှု ဝန်ကြီးဌာန ၏ ထောက်ခံ ချက်နှင့် အတူ တင်ပြလာခြင်းအပေါ် လမ်းညွှန်မှုခံယူအပ်ပါသည်။

AAA

ကော်မရှင်၏ ၃၂/၂၀၀၉ အစည်းအဝေး

အကြောင်းအရာ။ ။ ထရီပယ်လ် "အေ" စီးမန့်တ် အင်တာ နေရှင်နယ် ကုမ္ပဏီ လီမိတက် (Triple "A" Cement International Co., Ltd. )မှ မန္တလေးတိုင်း ၊ ကျောက်ဆည် ခရိုင်၊ ကျောက်ဆည်မြို့နယ် တွင် ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်းကိစ္စ။

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ထရီပယ်လ် "အေ" စီးမန့်တ် အင်တာ နေရှင်နယ် ကုမ္ပဏီ လီမိတက်<br>(Triple "A" Cement International Co., Ltd. )<br>(ကုမ္ပဏီမှတ်ပုံတင်အမှတ်၊ ၆၉၅/၁၉၉၈-၁၉၉၉) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးရှင်ချောက် (အဘ- ဦးလောပေါင်း) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်း။ |
| ၄။ | တည်နေရာ | - ကွင်းအမှတ် (၂၅၂ - ခ ) နှင့် ( ၂၅၂ - ခ ကွင်းပြင်)၊ ကျောက်ဆည် မြို့နယ်၊ မန္တလေးတိုင်း။ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၅၀၀.၀၀ (သန်း) ( US$ ၁၄.၉၃ သန်း) |
| | - ငွေပမာဏ | ကျပ် ၉၂.၂၀ (သန်း) |
| | - စက်ပစ္စည်းကိရိယာတန်ဘိုးများ | |
| | - စက်ရုံဟောင်းမှပြောင်းရွှေ့ခြင်း | ကျပ် ၅၆.၀၄ (သန်း) ( US$ ၉.၃၄ သန်း) |
| | - အသစ်တင်သွင်းရန် | ကျပ် ၃၃.၅၄ (သန်း) ( US$ ၅.၅၉ သန်း) |
| | - အဆောက်အဦ | ကျပ် ၃၁၈.၂၂ (သန်း) |
| ၆။ | မြေအကြောင်းအရာ | |
| | - မြေအကျယ်အဝန်း | - ( ၅၀.၀၀ ) ဧက (၂၀၂၃၄၃ စတုရန်းပေ ) |
| | - မြေပိုင်ဆိုင်မှု | - ကုမ္ပဏီ၏ အုပ်ချုပ်မှု ဒါရိုက်တာဖြစ်သူ ဦးရှင်ချောက် အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသောမြေ။ |
| | - မြေအမျိုးအစား | - လန/၃၉ မြေ |
| | - အဆောက်အဦလိုအပ်ချက် | - စက်ရုံ၊ ရုံးခန်း၊ ဓါတ်အားခွဲရုံ၊ သိုလှောင်ရုံ နှင့် ဝန်ထမ်းနေအိမ်များ အပါအဝင် အဆောက်အဦ (၂၉)လုံး လိုအပ်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၇။ | ထုတ်လုပ်မှု (ပုံမှန်နှစ်) | တန် |
| | - ဘိလပ်မြေ | ၁၄၀,၀၀၀ |
| ၈။ | ရောင်းချမည့်နည်းစနစ် | - ၁၀၀% (ပြည်တွင်း) |

| | | |
|---|---|---|
| ၉။ | ဘိလပ်မြေတစ်တန်ရောင်းဈေးနှုန်း | - ၆၆၀၀၀ (ကျပ်) |
| ၁၀။ | ဝင်ငွေ (ပုံမှန်နှစ်) | - ကျပ် ၉၂၄၀.၀၀ သန်း |
| ၁၁။ | အသားတင်အမြတ် (ပုံမှန်နှစ်) | - ကျပ် ၂၈.၄၈ သန်း |
| ၁၂။ | နိုင်ငံတော်မှ ပုံမှန်နှစ်တွင်ရရှိမည့် အကျိုးအမြတ် | |
| | - ဝင်ငွေခွန် | - ကျပ် ၁၂.၂၁ သန်း |
| | - ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၁၈၄၈.၀၀ သန်း |
| ၁၃။ | အရင်းကြေကာလ | - (၈) နှစ် နှင့် (၈) လ |
| ၁၄။ | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - (၁၁.၁၈) ရာခိုင်နှုန်း |
| ၁၅။ | လုပ်သားအင်အား (ပြည်တွင်း) | - (၇၂၃)ဦး |
| ၁၆။ | စက်ပစ္စည်းဝယ်ယူမှုနှင့်ငွေကြေး ခိုင်မာမှုအထောက်အထား | - စက်ပစ္စည်းများအနက် ကျပ်(၅၆.၀၄)သန်းတန်ဘိုးရှိ စက်ပစ္စည်းများကို စက်ရုံ အဟောင်း မှ အသစ် သို့ ပြောင်းရွှေ့ ယူမည် ဖြစ်ပြီး ကျပ် ( ၃၃.၅၄ ) သန်း [US$ ၅.၅၉ သန်း] တန်ဘိုးရှိ စက်ပစ္စည်း အသစ်များ ကို ညီနောင် ကုမ္ပဏီများ ဖြစ်သော Triple " A " International Co., Ltd. , Hpoun Htut San Co., Ltd. , Mine Htet Co.,Ltd. နှင့် Eastern Ocean Co., Ltd. တို့၏ တရားဝင် ရရှိ ထားသော Export Earning များဖြင့် ပြည်ပမှ ဝယ်ယူမည်ဖြစ်ကြောင်း Triple " A " International Co., Ltd. ၏ MFTB နှင့် MICB တို့ရှိ နိုင်ငံခြားငွေ (၃.၇၄)သိန်းကို တင်ပြထားပါသည်။<br>- ပြည်ပ မှ ဝယ်ယူ မည့် စက်ပစ္စည်း များ တန်ဘိုး US$ (၅.၅၉) သန်း အနက် US$ (၅.၁၁၇) သန်း ဘိုးအား ကော်မရှင် ၏ (၁၄/၂၀၀၉)နှင့် (၂၄/၂၀၀၉) အစည်းအဝေးများ၏ခွင့်ပြုချက်ဖြင့်ကြိုတင်တင်သွင်းခဲ့ပြီး ဖြစ်သည်။<br>- ငွေကြေးဆိုင်ရာ အထောက်အထား အဖြစ် ကုမ္ပဏီ အမည်ဖြင့် ကမ္ဘောဇဘဏ်လီမိတက်ရှိ(၃၁-၇-၂၀၀၉) နေ့ ငွေလက်ကျန် ကျပ်(၇၀.၀၃)သန်း တင်ပြထား ပါသည်။ |

| | | |
|---|---|---|
| ၁၇။ | သက်ဆိုင်ရာဝန်ကြီးဌာနများမှ သဘောထားမှတ်ချက် | - အဆိုပြု လုပ်ငန်း အတွက် လိုအပ် သော လျှပ်စစ်ဓါတ်အား တစ်နှစ်(၁၂၀၀၀)ကီလိုဝပ် လိုအပ်ချက်နှင့် စပ်လျဉ်း၍ အမှတ်(၂)လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနသို့ ( ၅-၈-၂၀၀၉ )ရက်စွဲပါ စာဖြင့် သဘောထားတောင်းခံထားပါသည်။ (ပူးတွဲ)<br>- လိုအပ်လျှင် အသုံးပြုနိုင်ရန် AAAမိသားစုကုမ္ပဏီပိုင် Generator (၁၁)လုံး စီစဉ်ထားရှိကြောင်း သိရှိရ ပါသည်။<br>- သတ္တုတွင်း ဝန်ကြီးဌာန မှ အဆိုပြု လုပ်ငန်း တွင် ထုံးကျောက် ကုန်ကြမ်း ရယူသုံးစွဲမှုနှင့် စပ်လျဉ်း၍ ကျောက်ဆည်မြို့နယ်၊တောင်နီမတောင်မှထုံးကျောက် ကုန်ကြမ်း ထုတ်လုပ်ခွင့် ကို ထရီပယ်လ် " အေ " စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် အမည်ဖြင့်(၁၀-၁၁-၂၀၀၈)မှ(၉-၁၁-၂၀၁၈)နေ့အထိ (၁၀)နှစ် ထုတ်လုပ်ခွင့်ပြုသည့် ခွင့်ပြုမိန့် တင်ပြထားပါသည်။ |
| ၁၈။ | ကတိဝန်ခံချက်များ | - ယင်း လုပ်ငန်း သည် မြန်မာနိုင်ငံသားများ သာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှုမရှိကြောင်း၊<br>- မြေငှားရမ်းခြင်းနှင့် စပ်လျဉ်း၍ နိုင်ငံတော်မှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များ လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း၊<br>- ပတ်ဝန်းကျင် ညစ်ညမ်းမှု နှင့် မီးဘေး အန္တရာယ် အတွက်လိုအပ်သောအစီအမံများ၊ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ကြောင်း၊<br>- ထုတ်ကုန် ပစ္စည်းများကို ကိုယ်ပိုင် အမှတ်တံဆိပ် ဖြစ်သော (AAA)တံဆိပ်ဖြင့် ထုတ်လုပ်ရောင်းချမည် ဖြစ်ကြောင်းနှင့် ပြည်တွင်း ဈေးကွက် အခိုင်အမာရှိပြီးဖြစ်ကြောင်း၊ ယခု အဆိုပြု လုပ်ငန်း ဆောင်ရွက် မည့် မန္တလေးတိုင်း ၊ ကျောက်ဆည် မြို့နယ်တွင် ကော်မရှင် ခွင့်ပြုမိန့်ရရှိပြီးပါက ပုသိမ်ကြီးမြို့နယ်တွင် ယခင်ရရှိထားသည့် ကော်မရှင်ခွင့်ပြုမိန့် (၂)ခု မနသ - ၀၂၇/ ၉၆ ( ၂၈ - ၆ - ၁၉၉၆ ) နှင့် မနသ - ၃၈၇ / ၂၀၀၀ (၁၆-၅-၂၀၀၀) တို့အား ပြန်လည် အပ်နှံမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုထားပါသည်။ |

| | | |
|---|---|---|
| ၁၉။ | ထုတ်လုပ်မှုနည်းစနစ် | - အဆိုပြုလုပ်ငန်းမှ ဘိလပ်မြေကို ထုတ်လုပ်မည့် နည်းစနစ်မှာ (Wet Process) အစိုထုတ်လုပ်မှု နည်း စနစ်ဖြင့် အသုံးပြုမည်ဖြစ်ပါကြောင်းတင်ပြထားပါသည်။ |
| ၂၀။ | စက်ရုံအလုပ်သမားနှင့် ဝန်ထမ်းများ သက်သာချောင်ချိရေး နှင့် လုပ်ငန်းခွင် သာယာရေး ဆောင်ရွက်ထားမှု တင်ပြခြင်း | - ဝန်ထမ်းများ၏အဝတ်အစားများလျှော်ဖွပ်ရန် ဆပ်ပြာမှုန့် များ အခမဲ့ ပေးဝေ ခြင်း၊ ဝန်ထမ်းများ အတွက် ခြင်ထောင်များ၊ သံသေတ္တာများကို အရစ်ကျစနစ်ဖြင့် ရောင်းချပေးခြင်း၊ ဝန်ထမ်း သက်သာဆိုင် ဖွင့်လှစ် ရောင်းချပေးခြင်း၊ တယ်လီဖုန်းများ ထားရှိ ပေးခြင်း၊ ရာသီ အလိုက် ပွဲတော် များ ကျင်းပ ပေးခြင်း တို့ ကို ဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၂၁။ | ယခင်ခွင့်ပြုမိန့်များ | - ထရီပယ်လ် " အေ " စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် သည် မန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ်၊ ကျွဲနဖားတောင်၊ ရွှေစာရံကျေးရွာအုပ်စု၊ ကွင်းအမှတ်(၅၆၂/ခ)၊ ဦးပိုင်အမှတ်(N ၃/၂၊ N ၅၂၊ OA) ရှိ မြေ (၁၄.၅၂)ဧကတွင် ကော်မရှင် ခွင့်ပြုမိန့်အမှတ် မနသ-၀၂၇/၉၆(၂၈-၆-၁၉၉၆)နှင့် မနသ-၃၈၇/၂၀၀၀ (၁၆-၅-၂၀၀၀)တို့ဖြင့်ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်လျှက် ရှိပါသည်။ ယခုအခါ နိုင်ငံတော်၏ လမ်းညွှန်ချက် အရ မန္တလေးတိုင်း၊ ကျောက်ဆည်မြို့ (ယခု အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မြေနေရာ) သို့ ပြောင်းရွှေ့တည်ဆောက်မည် ဖြစ်ပါသည်။ |
| ၂၂။ | ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် Custom Duty ကင်းလွတ်ခွင့် ၊ သက်သာခွင့်များ | - နိုင်ငံတော်မှလမ်းညွှန်ချက်အရ စက်ရုံဟောင်းကို နေရာသစ်သို့ ရွှေ့ပြောင်းပြီး လုပ်ငန်းအသစ်အနေဖြင့် ထပ်မံရင်းနှီးမြှုပ်နှံ သောကြောင့် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် Custom Duty ကင်းလွတ်ခွင့် ၊ သက်သာခွင့်များကို ခံစားခွင့်ပြုရန် လမ်းညွှန်မှုခံယူအပ်ပါသည်။ |
| ၂၃။ | ခွင့်ပြုမိန့်ထုတ်ပေးပြီးအခြေအနေ | - ပုသိမ်ကြီးမြို့နယ်ရှိ AAA ဘိလပ်မြေ စက်ရုံ အပါအဝင် ခွင့်ပြုမိန့်ထုတ်ပေးပြီး ဘိလပ်မြေစက်ရုံလုပ်ငန်း (၆)ခုတွင် ခွင့်ပြုမိန့် ပြန်လည်အပ်နှံသော လုပ်ငန်း(၁)ခု ရှိသဖြင့် လုပ်ငန်း(၅)ခုရှိပါသည်။ |

## ဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များအမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | ထရီပယ်လ်"အေ"စီးမန့်တ် အင်တာ နေရှင်နယ် ကုမ္ပဏီ လီမိတက် (Triple "A" Cement International Co., Ltd.) | ၁။ ဦးရွှင်ချောက် (အုပ်ချုပ်မှုဒါရိုက်တာ) | အမှတ်-၃၅၈၊ ၃၃-၃၄ လမ်းနှင့် ၈၅-၈၆ လမ်းကြား၊ မလွန်နီပါးတန်းလမ်း၊ ချမ်းအေးသာဇံမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၂။ ဦးကျော်အေး (ဒါရိုက်တာ) | အမှတ်-၁၀၆၊ ဩဘာလမ်း၊ မြို့လယ် ရပ်ကွက်၊ သီပေါမြို့နယ်၊ ရှမ်းပြည်နယ်။ |
| | | ၃။ ဦးလျော်မြင့်ချင် (ခ) ဦးအောင်သိန်း (ဒါရိုက်တာ) | အမှတ်- ၁၃၄၊ ဩဘာလမ်း၊ မြို့လယ် ရပ်ကွက်၊ သီပေါမြို့နယ်၊ ရှမ်းပြည်နယ်။ |
| | | ၄။ ဦးအိုက်စွန်း (ဒါရိုက်တာ) | အမှတ်-၅၂၊ ရတနာလမ်း၊ မြို့လယ် ရပ်ကွက်၊ သီပေါမြို့နယ်၊ ရှမ်းပြည်နယ်။ |
| | | ၅။ ဦးစိုင်းကျော် (ဒါရိုက်တာ) | အမှတ်- ၁၃၄၊ ဩဘာလမ်း၊ မြို့လယ် ရပ်ကွက်၊ သီပေါမြို့နယ်၊ ရှမ်းပြည်နယ်။ |
| | | ၆။ ဒေါ်ဟောင်ရန်ဇင်း (ဒါရိုက်တာ) | အမှတ်-၁၈၂/၁၈၃၊ ရတနာလမ်း၊ မြို့လယ် ရပ်ကွက်၊ သီပေါမြို့နယ်၊ ရှမ်းပြည်နယ်။ |
| | | ၇။ ဒေါ်နန်းလီလီလှိုင် (ဒါရိုက်တာ) | အမှတ်-၃၅၈၊ ၃၃-၃၄ လမ်းနှင့် ၈၅-၈၆ လမ်းကြား၊ မလွန်နီပါးတန်းလမ်း၊ ချမ်းအေးသာဇံမြို့နယ်၊ ရန်ကုန်မြို့။ |

| | | | |
|---|---|---|---|
| ၁။ | ကုမ္ပဏီတယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - | ၀၁-၅၂၄၃၂၄၊ ၀၁-၅၂၄၁၂၉၊ ၀၂-၆၀၂၆၆၊ ၀၂-၆၀၂၈၈ |
| ၂။ | ကုမ္ပဏီ၏လိပ်စာအပြည့်အစုံ | - | အမှတ်-၃၉၆၊ ၈၁ လမ်း၊ ၃၀-၃၁ လမ်းကြား၊ မန္တလေးမြို့။ |
| ၃။ | ကုမ္ပဏီ၏ဆက်သွယ်ရမည့် ပုဂ္ဂိုလ် အမည်၊ ရာထူး | - | ဦးရွှင်ချောက် (အုပ်ချုပ်မှုဒါရိုက်တာ) |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - | ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့်နေ့စွဲ | - | ၆၉၅/၁၉၉၈-၁၉၉၉)(၂၄-၉-၁၉၉၈) |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့် နေ့စွဲ | - | (၁၁-၈-၂၀၀၉) |
| ၇။ | ဘဏ်အမည် နှင့် ဘဏ်စာရင်းအမှတ် | - | ကမ္ဘောဇဘဏ် လီမိတက် 0211130001344 |

၂၄/၂၀၀၉ ကော်မရှင်အစည်းအဝေး

အကြောင်းအရာ။ ။ ထရီပယ်လ် "အေ"စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်၏ ဘိလပ်မြေစက်ရုံ ပြောင်းရွှေ့တည်ဆောက်ရေးတွင် လိုအပ်သော စက်ပစ္စည်းများနှင့် အပိုပစ္စည်းများအား အစားထိုး ရင်းနှီးမြှုပ်နှံမှုအဖြစ် ပြည်ပမှ တင်သွင်းရန် လျှောက်ထားခြင်း။

၁။ ထရီပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင့်နယ် ကုမ္ပဏီ လီမိတက်သည် ဘိလပ်မြေစက်ရုံတည်ဆောက်ပြီး ထုတ်လုပ်ရောင်းချခြင်း လုပ်ကိုင်ဆောင်ရွက်ရန် ကော်မရှင်မှ ခွင့်ပြုမိန့်အမှတ် မနသ-၂၇/၉၆ (၂၈-၆-၁၉၉၆) နှင့် တိုးချဲ့ခွင့်ပြုမိန့်အမှတ် မနသ-၃၈၇/၂၀၀၀ (၁၆-၂-၂၀၀၀) တို့ကိုရရှိခဲ့ပါသည်။ စက်ရုံသည် မန္တလေးတိုင်း ပုသိမ်ကြီးမြို့နယ် ရွှေစာရံ ကျေးရွာအုပ်စု ကျွဲနဖားတောင်ကွင်းတွင် တည်ရှိပါသည်။

၂။ ကုမ္ပဏီသည် အကြီးအကဲများ၏ လမ်းညွှန်ချက်အရ ဘိလပ်မြေစက်ရုံအား ကျောက်ဆည်ခရိုင် ကျောက်ဆည်မြို့ တောင်တော်ကျေးရွာသို့ ပြောင်းရွှေ့တည်ဆောက်၍ ဘိလပ်မြေ ထုတ်လုပ်ရောင်းချခြင်းအား နိုင်ငံတော်စီမံကိန်းအနေဖြင့် ဆောင်ရွက်ရမည်ဖြစ်ပါသည်။ကနဦး ပြောင်းရွှေ့တည်ဆောက်ရေးလုပ်ငန်းများ ဆောင်ရွက်လျှက်ရှိရာ အချို့သောစက်ပစ္စည်းများ၊ အဆောက်အဦများ မှာမြေပြင်အောက်ရောက်ရှိခြင်း၊ ပြောင်းရွှေ့မရနိုင်ခြင်း ၊ ပြန်လည်အသုံးပြုပါက အရည်အသွေး မပြည့်မှီနိုင်ခြင်းကြောင့် အစားထိုးရင်းနှီးမြှုပ်နှံမှုအဖြစ် ပြည်ပမှ US$ (၄.၃၆)သန်း တန်ဘိုး ဝယ်ယူတင်သွင်းရမည်ဖြစ်ပါသည်။ ကုမ္ပဏီသည် စက်ပစ္စည်း US$(၄.၃၆) သန်းအား တရုတ်နိုင်ငံရှိ Jiangsu Pengtei Group Nantong Heavy Duty Equipment Co.,Ltd မှ တင်သွင်းမည်ဖြစ်ပြီး ညီနောင်ကုမ္ပဏီများ၏ FE ဖြင့် ပြည်ပမှ ဝယ်ယူတင်သွင်းခွင့်ကို ကော်မရှင် အစည်းအဝေး (၁၄/၂၀၀၉)(၂၉-၄-၂၀၀၉)သို့ တင်ပြခဲ့ရာ ကော်မရှင်မှ ခွင့်ပြုခဲ့ပါသည်။ကုမ္ပဏီသည် လုပ်ငန်းသုံးစက်ပစ္စည်း အမယ် (၅၇) မျိုး၊ တန်ဘိုး US$ (၄.၃၆)သန်း အား ညီနောင်ကုမ္ပဏီများ၏ ဘဏ်လက်ကျန်အရ, ဦးစားပေးအစီစဉ်ဖြင့် (၅)ကြိမ် ခွဲ၍ တင်သွင်းမည် ဖြစ်ကြောင်း တင်ပြခဲ့ပြီး ဖြစ်ပါသည်။

၃။ ထရီပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက်အနေဖြင့် စက်ရုံပြောင်းရွှေ့တည်ဆောက်ခြင်း လုပ်ငန်းနှင့် စက်ရုံအဟောင်းနေရာမှ စက်နှင့် စက်အပိုပစ္စည်းများ ဖြုတ်ယူခြင်းလုပ်ငန်းကို တပြိုင်နက် ဆောင်ရွက်လျှက်ရှိရာ ၃၀% ခန့် ပြီးစီးနေပြီဖြစ်ပါသည်။ စက်ပစ္စည်းများ ဖြုတ်ယူရာတွင် မထင်မှတ်သော ပျက်စီးမှုများနှင့် အချိန်နှောက်နှေး ကြန့်ကြာမှုများ ဖြစ်ပေါ်လာပါသဖြင့် ပြည်ပမှ မှာယူအစားထိုးရန်နှင့် ပြောင်းရွှေ့

လုပ်ငန်းများတွင် အရှိန်အဟုန်ဖြင့် ဆောင်ရွက်နိုင်ရန် လိုအပ်သော စက်၊ ယာဉ်၊ ယန္တယားနှင့် စက်အပိုပစ္စည်း (၁၁)မျိုး၊ တန်ဘိုး(US$ ၇၅၆၆၈၀.၀၀)အား ရင်းနှီးမြှုပ်နှံမှု ပစ္စည်းများအဖြစ် ပြည်ပမှ ဝယ်ယူတင်သွင်းခွင့်ပြုပါရန် အမှတ် (၁) စက်မှုဝန်ကြီးဌာနမှ ထောက်ခံထားပါသည်။

၄။ စိစစ်တင်ပြချက်

(က) AAA Cement International Co.,Ltd ၏အစားထိုးရင်းနှီးမြှုပ်နှံမှု အဖြစ် ဆောက်လုပ်ရေးနှင့်လုပ်ငန်းသုံး ပစ္စည်း အမယ် (၅၇)မျိုး၊ တန်ဘိုး US$(၄.၃၆) သန်းအား အမှတ်(၁) စက်မှုဝန်ကြီးဌာနမှ ထောက်ခံသဖြင့် ကော်မရှင်အစည်းအဝေး ၁၄/၂၀၀၉(၂၉-၄-၂၀၀၉) မှ ခွင့်ပြုခဲ့ပါသည်။

(ခ)ကုမ္ပဏီသည်စက်ပစ္စည်းတန်ဘိုးUS$(၄.၃၆)သန်းအား(၅)ကြိမ်ခွဲ၍တင်သွင်းရန်တင်ပြထား ပါသည်။

(ဂ)Triple "A" Cement International Co.,Ltd. ၏ တင်သွင်းပြီးသည့် စက်ပစ္စည်းစာရင်း အခြေအနေနှင့် တင်သွင်းမည့် စက်ပစ္စည်းစာရင်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| စဉ် | အကြောင်းအရာ | အရေအတွက် | တန်ဘိုး US$ သန်း | မှတ်ချက် |
|---|---|---|---|---|
| ၁ | ပထမအကြိမ်ကော်မရှင်၏ (၁၄/၂၀၀၉) (၂၉-၄-၂၀၀၉) အစည်းအဝေးမှ ခွင့်ပြုချက် ( AAA Cement International Co.,Ltd နှင့် ညီနောင်ကုမ္ပဏီများ၏ MICB ဘဏ်နှင့် MFTB ဘဏ်ရှိ ငွေ US$(၁.၄၀)သန်းရှိကြောင်း တင်ပြထားပါသည်။ | ၅၇(မျိုး) | ၄.၃၆ သန်း | (၅)ကြိမ်ခွဲ၍ တင်သွင်းမည်ဟုတင်ပြခဲ့ပါသည်။ ယနေ့အထိ (ဒုတိယအကြိမ်အထိ) USS(၂.၁၁)သန်းဘိုးတင်သွင်းထားပါသည်။ (ပူးတွဲ) |
| ၂ | ယခုတင်ပြချက် (၃-၆-၂၀၀၉)နေ့စွဲပါ MICB ဘဏ်ရှိ ငွေ US$ (၁.၅၀)သန်းရှိကြောင်းတင်ပြထားပါသည်။ | (၁၁)မျိုး | ၀.၇၆ သန်း | *Truck 10 No Dumper 10 No ပါဝင်ပါသည်။ |

(ဃ)AAA Cement International Co.,Ltd ၏ (၄-၆-၂၀၀၉) နေ့ရှိ မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်ရှိ လက်ကျန်ငွေမှာ US$ ၁၄၉၉၇၆၇.၈၉ ရှိပါသည်။

(င)ယူ့ စက်၊ ယာဉ်၊ ယန္တရားနှင့် စက်အပိုပစ္စည်း(၁၁)မျိုး US$၇၅၆၆၈၀.၀၀ တင်သွင်းမှုအတွက် Proforma Invoice နှင့် အမှတ်(၁) စက်မှုဝန်ကြီးဌာနမှ ထောက်ခံချက် တင်ပြထားပါသည်။ (ပူးတွဲ)

၅။ သို့ဖြစ်ပါ၍ AAA Cement International Co.,Ltd ၏ ဘိလပ်မြေစက်ရုံ ပြောင်းရွှေ့တည်ဆောက်ရေးတွင် လိုအပ်သောစက်ပစ္စည်းများနှင့် အပိုပစ္စည်းများအား အစားထိုး ရင်းနှီးမြှုပ်နှံမှုအဖြစ် စက်၊ ယာဉ်၊ ယန္တယားနှင့် စက်အပိုပစ္စည်း (၁၁)မျိုး(US$ ၇၅၆၆၈၀.၀၀) အားပြည်ပမှ မှာယူတင်သွင်းခွင့်ပြုပါရန်တင်ပြလာမှုအပေါ် လမ်းညွှန်မှုခံယူအပ်ပါသည်။



ထရီပယ်ဝင်ဗီ''အေ'' စီးမန့်ဝင် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်

TRIPLE "A" CEMENT INTERNATIONAL COMPANY LIMITED

သို့

ဥက္ကဋ္ဌ
မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ ဇူလိုင်လ ( ၇ )ရက်

အကြောင်းအရာ။ ။ **ကုန်ပစ္စည်းတင်သွင်းမှု အခြေအနေ ရှင်းလင်းတင်ပြချက်**

အထက်ပါကိစ္စနှင့် ပတ်သက်၍ ကျွန်တော်များ ကုမ္ပဏီမှာ လူကြီးမင်းကော်မရှင်၏ ခွင့်ပြုမိန့်အမှတ် – ၅(က)–၇(ခ) / မ–၄၁၂ / ၂၀၀၉ (၅၉၁၂–ခ) ၂၆–၅–၂၀၀၉ ဖြင့် ပစ္စည်း (၅၇)မျိုး US$ 43 64424.70 တန်ဖိုးအား ရင်းနှီးမြှုပ်နှံမှုပစ္စည်းများအဖြစ် နိုင်ငံခြားမှ မှာယူတင်သွင်းခွင့်ရရှိခဲ့ပါသည်။

အဆိုပါ (၅၇)မျိုးမှ (၂)ကြိမ်ခွဲ၍ ပစ္စည်း (၃၂)မျိုး US$ 2011014.70 တန်ဖိုးအားတင်သွင်းခဲ့ပြီး လက်ကျန်ပစ္စည်း (၃၅)မျိုး US$ 2353410.00 တန်ဖိုးတင်သွင်းရန် ကျန်ရှိနေပါသည်။

ယခုအခါ စက်ရုံပြောင်းရွှေ့တည်ဆောက်ရေးတွင် ဖြစ်ပေါ်လာသည့် ပျက်စီးမှုနှင့် လုပ်ငန်းနှောင့်နှေးကြန့်ကြာမှုများကြောင့် ပြောင်းရွှေ့လုပ်ငန်း ဦးစားပေးလိုအပ်ချက်များအရ ပစ္စည်း (၁၁)မျိုး US$ 756680.00 တန်ဖိုးအား နိုင်ငံခြားမှ မှာယူတင်သွင်းလိုပါသည်။

သို့ဖြစ်ပါ၍ ယခင်ရရှိပြီး ခွင့်ပြုမိန့်မှ တင်သွင်းရန်လက်ကျန် US$ 2353410.00 တန်ဖိုးကျန်ရှိနေသော်လည်း ယခုလျှောက်ထားသည့် ပစ္စည်း(၁၁)မျိုး US$ 756680.00 တန်ဖိုးရှိ ပစ္စည်းများအား လုပ်ငန်းအရေးပေါ်လိုအပ်ချက်အရ ရင်းနှီးမြှုပ်နှံမှု ပစ္စည်းများအဖြစ် တင်သွင်းခွင့်လျှောက်ထားခြင်းအား သနားငဲ့ညှာစွာ စဉ်းစားပေးပါရန် ရိုသေလေးစားစွာဖြင့် ရှင်းလင်းတင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

No.(396), 81st Street, Between 30th & 31st Street, Mandalay, MYANMAR. ☎02-60288



သုံးပေါင်းမြို့ "အေ" ဘိလပ်မြေ အပြည်ပြည်ဆိုင်ရာ ကုန်သွယ်ရေး ကုမ္ပဏီလီမိတက်
"A" 水泥 國際貿易有限
TRIPLE "A" CEMENT INTERNATIONAL COMPANY LIMITED

| စဉ် | တင်သွင်း<br>ရက်စွဲ | အကြောင်းအရာ | တန်ဖိုး (US$) | မှတ်ချက် |
|---|---|---|---|---|
| ၁။ | ၂၂.၆.၂၀၀၉ | ပထမအကြိမ်တင်သွင်းမှု | 985514.70 | လျှပ်စစ်သုံးပစ္စည်း(၇)မျိုး၊ ဆောက်လုပ်ရေးသုံးပစ္စည်း သံပြား၊ သံချောင်းနှင့် ဟက်လိုင်း (၂၅)မျိုး |
| ၂။ | ၂၅.၆.၂၀၀၉ | ဒုတိယအကြိမ်တင်သွင်းမှု | 1025500.00 | ဆောက်လုပ်ရေးသုံး သံချောင်း(၁၀)မျိုး |
| ၃။ | ၂၆.၅.၂၀၀၉ | စုစုပေါင်းတင်သွင်းခွင့်ရရှိမှု | 4364424.70 | |
| ၄။ | | လက်ကျန် | 2353410.00 | |

မှတ်ချက်။ ။ (၁) ပစ္စည်းများတင်သွင်းမှုတွင် ကျန်ရှိနေရခြင်းမှာ တဖက်နိုင်ငံစက်ရုံမှ ထုတ်လုပ်ဆဲကာလနှင့် အချို့ယာဉ်/ယန္တရားများမှာ တင်ပို့ရန် စမ်းသပ်ဆဲ ဖြစ်ပါသောကြောင့် တင်သွင်းရန်ကျန်ရှိခြင်း ဖြစ်ပါသည်။

(၂) ယခုတင်သွင်းလိုသည့် ပစ္စည်း (၁၁)မျိုးတွင်ပါရှိသည့် ယာဉ်များမှာ စက်ရုံပြောင်းရွှေ့ရေးတွင် အရှိအဟုန်ဖြင့် ပိုမိုဆောင်ရွက်နိုင်ရန်နှင့် စက်ပစ္စည်းများမှာ ဆောက်လုပ်ရေးလုပ်ငန်းများတွင်အသုံးပြုရန် ဦးစားပေးလိုအပ်ချက်ကြောင့် တင်သွင်းလိုခြင်းဖြစ်ပါသည်။

ရိုသေလေးစားစွာဖြင့်

No (396), 81st Street, Between 30th & 31st Street, Mandalay MYANMAR ☎02-60288




ထရီပယ်လ် "အေ" စီးမန့်တ် အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်

三 "A" 水泥 國際貿易有限公司

TRIPLE "A" CEMENT INTERNATIONAL COMPANY LIMITED




သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

ရက်စွဲ။ ၁၂ - ၆ -၂၀၀၉။

အကြောင်းအရာ။ ။ဘိလပ်မြေစက်ရုံပြောင်းရွှေ့တည်ဆောက်ရေးတွင်လိုအပ်သောစက်ပစ္စည်းများနှင့်အပိုပစ္စည်းများအားအစားထိုးရင်းနှီးမြှုပ်နှံမှုအဖြစ် ပြည်ပမှတင်သွင်းရန် လျှောက်ထားခြင်း။

အထက်ပါကိစ္စနှင့်ပတ်သက်၍ ကျွန်တော်များကုမ္ပဏီပိုင် အသေးလုံးဘိလပ်မြေစက်ရုံမှာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်အမှတ်–မနသ–၀၂၇/၉၆(၂၈.၆.၉၆)နှင့် မနသ–၃၈၇/၂၀၀၀(၁၆.၅.၂၀၀၀) (၂)စောင်ဖြင့် မန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ်၊ ကျွဲနဖားတောင်ကွင်း၊ ကျောက်ချောကျေးရွာတွင် ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်းများကို ဆောင်ရွက်လျှက်ရှိပါသည်။

ယခုအခါ နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၏စီမံကိန်းအရ စက်ရုံအား ကျောက်ဆည်ခရိုင်၊ ကျောက်ဆည်မြို့နယ်၊ တောင်တော်ကျေးရွာအုပ်စုသို့ ရွှေ့ပြောင်းတည်ဆောက်ရန် ညွှန်ကြားခဲ့ပါသောကြောင့် ကျွန်တော်များကုမ္ပဏီအနေဖြင့် ပြောင်းရွှေ့စက်ရုံတည်ဆောက်ခြင်းလုပ်ငန်းများနှင့် စက်ရုံအဟောင်းနေရာမှ စက်နှင့်စက်အပိုပစ္စည်းများဖြုတ်ယူခြင်းလုပ်ငန်းကို တပြိုင်နက်ဆောင်ရွက်လျှက်ရှိရာ ၃၀%ခန့်ပြီးစီးသည့်အခြေအနေရှိပါသည်။

အဆိုပါဖြုတ်ယူခြင်းလုပ်ငန်းများတွင် မထင်မှတ်သောပျက်စီးမှုများနှင့် နှောင့်နှေးကြန့်ကြာမှုများ ဖြစ်ပေါ်မှုကြောင့်ပြည်ပမှမှာယူအစားထိုးရန်နှင့် ပြောင်းရွှေ့လုပ်ငန်းများတွင် အရှိန်အဟုန်ဖြင့်ဆောင်ရွက်နိုင်ရန် လိုအပ်သောစက်၊ယာဉ်၊ယန္တယားနှင့် စက်အပိုပစ္စည်း(၁၁)မျိုး **(US$ 756680.00)**အား စက်ရုံပြောင်းရွှေ့မှုအဆိုပြုချက် **Proposal** မတင်ပြနိုင်မီကြိုတင်၍ ရင်းနှီးမြှုပ်နှံမှုပစ္စည်းများအဖြစ် ပြည်ပမှမှာယူတင်သွင်းခွင့်ပြုပါရန် စက်မှု(၁)ဝန်ကြီးဌာန၏ ထောက်ခံချက်အား ပူးတွဲလျှက် ရိုသေလေးစားစွာဖြင့် လျှောက်ထားအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

*U Shwin Chouk*
*13/Tha Pa Na (N) 023361*
*Managing Director*
*Triple "A" Cement Int'l Co., Ltd.*

12/6/09

No.(396), 81st Street, Between 30th & 31st Street, Mandalay, MYANMAR. ☎02-60288

